ကုမ္ပဏီအမည် - Known-You Seed Myanmar Company Limited
လုပ်ငန်း - မျိုးစေ့စိုက်ပျိုး ထုတ်လုပ်ခြင်း နှင့် ရောင်းချခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၂၀-၁-၂၀၁၅ | | |
| ၂ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) စီမံကိန်း စိစစ်ရေးနှင့် တိုးတက်မှု အစီရင်ခံရေးဦးစီးဌာန | ၂၃-၁-၂၀၁၅ | ၂၇-၁-၂၀၁၅ | |
| | (ခ) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၂၂-၁-၂၀၁၅<br>၁၁-၂-၂၀၁၅<br>၅-၅-၂၀၁၅ | ၁၈-၂-၂၀၁၅<br>၂၅-၆-၂၀၁၅ | |
| | (ဂ) မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ | ၂၂-၁-၂၀၁၅<br>၁၁-၂-၂၀၁၅ | ၉-၃-၂၀၁၅ | |
| | (ဃ) မကွေးတိုင်းဒေသကြီးအစိုးရအဖွဲ့ | ၂၂-၁-၂၀၁၅<br>၁၁-၂-၂၀၁၅<br>၇-၄-၂၀၁၅ | ၁၆-၂-၂၀၁၅<br><br>၂၉-၄-၂၀၁၅ | |
| | (င) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၂၂-၁-၂၀၁၅ | ၁၅-၂-၂၀၁၅ | |
| | (စ) လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာန | ၂၂-၁-၂၀၁၅<br>၁၁-၂-၂၀၁၅<br>၁၀-၃-၂၀၁၅<br>၈-၄-၂၀၁၅<br>၆-၅-၂၀၁၅ | | |
| ၃ | PAT တင်ပြခြင်း | ၆/၂၀၁၅<br>၉-၂-၂၀၁၅ | | |
| ၄ | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၁၀-၂-၂၀၁၅ | | |
| ၅ | အဆိုပြုချက်ပြန်လည်ပေးပို့ခြင်း | ၂၆-၃-၂၀၁၅ | | မကွေးတိုင်းဒေသကြီး၏ သဘောထား မှတ်ချက် အရ အဆိုပြုချက်အား ပြန်လည် ပေးပို့ခဲ့ပါသည်။ |
| ၆ | ကုမ္ပဏီမှ မကွေးတိုင်းဒေသကြီးအစိုးရအဖွဲ့ ၏ သဘောထားမှတ်ချက်အရ အဆိုပြုမြေ နေရာပြင်ဆင်၍ပြန်လည် တင်ပြလာခြင်း | ၃၀-၃-၂၀၁၅ | | |

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
| --- | --- | --- | --- | --- |
| ၇ | အဆိုပြုချက်ပြန်လည်ပေးပို့ခြင်း | ၁၆-၇-၂၀၁၅ | | ရန်ကုန်တိုင်းဒေသကြီးမှ လယ်ယာမြေအား အခြားနည်းအသုံးပြုခွင့် ရရှိရေးအတွက် မြို့နယ်လယ်ယာမြေ စီမံခန့်ခွဲရေးအဖွဲ့တွင် အမှုတွဲဖွင့်လှစ်၍ ဆောင်ရွက်နေဆဲဖြစ်သဖြင့်သဘောထား ပြန်ကြားနိုင်ခြင်း မရှိသေးကြောင်း ပြန်ကြားလာခြင်းနှင့် ရက်ပေါင်း (၉၀)ကျော်လွန်နေခြင်းတို့ကြောင့် အဆိုပြုလွှာအား ပြန်လည်ပေးပို့ခဲ့ပါသည်။ |
| | **စုစုပေါင်းကြာမြင့်ချိန်** | **၁၇၇ ရက်** | | |
| ၁ | ကုမ္ပဏီမှ အဆိုပြုလုပ်ငန်းအား မန္တလေးတိုင်းဒေသကြီးနှင့် မကွေးတိုင်းဒေသကြီးတို့တွင် ဆောင်ရွက်မည်ဖြစ်ကြောင်း အဆိုပြုလွှာအား ပြင်ဆင်၍ ပြန်လည်တင်ပြလာခြင်း | ၃၀-၁၀-၂၀၁၅ | | |
| ၂ | သဘောထားမှတ်ချက်တောင်းခံခြင်း<br>(က) လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန (ဆဌမအကြိမ်)<br>(သတ္တမအကြိမ်) | <br>၄-၁၁-၂၀၁၅<br><br>၁-၁၂-၂၀၁၅ | <br>၂၁-၁၂-၂၀၁၅<br><br>၁၉-၁-၂၀၁၆ | |
| ၃ | မြေအသုံးပြုခွင့် တင်ပြခြင်း<br>(က) ကော်မရှင်အစည်းအဝေးသို့ တင်ပြခြင်း<br><br><br><br>(ခ) စီးပွားရေးရာကော်မတီ အစည်းအဝေးသို့ တင်ပြခြင်း | <br>၃/၂၀၁၅<br>(၂၇-၂-၂၀၁၅)<br>၉/၂၀၁၅<br>(၁၈-၅-၂၀၁၅)<br>၇/၂၀၁၅<br>(၂-၄-၂၀၁၅)<br>၉/၂၀၁၅<br>(၂၈-၅-၂၀၁၅) | | မကွေးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ သဘောထားမှတ်ချက်အရ ကုမ္ပဏီမှ လုပ်ငန်း ဆောင်ရွက်မည့်မြေနေရာ အား ပြင်ဆင်တင်ပြလာပါသဖြင့် ထပ်မံတင်ပြရခြင်း ဖြစ်ပါသည်။ |

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| | (ဂ) ပြည်ထောင်စုအစိုးအဖွဲ့သို့ တင်ပြခြင်း | ၈/၂၀၁၅ (၉-၄-၂၀၁၅)<br>၁၃/၂၀၁၅ (၂၅-၆-၂၀၁၅) | | |
| ၄ | MIC အစည်းအဝေးသို့ တင်ပြရန် ကုမ္ပဏီမှ အဆိုပြုလွှာ (၁၀)စုံ လက်ခံရရှိခြင်း | ၂၂-၁-၂၀၁၆ | | |
| | **စုစုပေါင်းကြာမြင့်ချိန်** | **၈၅ ရက်** | | |

| | |
|---|---|
| ကုမ္ပဏီအမည် | - Known-You Seed Myanmar Company Limited |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - မျိုးစေ့စိုက်ပျိုး ထုတ်လုပ်ခြင်း နှင့် ရောင်းချခြင်း လုပ်ငန်း |
| တည်နေရာ | - ဦးပိုင်အမှတ်(၂၁၊ ၁၉၊ ၂၀၊ ၂၂၊ ၁၈၊ ၄၅၊ ၄၆၊ ၄၇) ၊ ကွင်းအမှတ်-(၁၂)၊ တမာကုန်း၊ ဆည်ရွာကျေးရွာအုပ်စု၊ စဉ့်ကိုင်မြို့နယ်၊ ကျောက်ဆည်ခရိုင်၊ မန္တလေးတိုင်းဒေသကြီးရှိ မြေဧရိယာ (၂၄.၁၆) ဧက နှင့် |
| | - ဦးပိုင်အမှတ်-(၁၁၀)၊ ကွင်းအမှတ်- (၈၈၈) ရွာသာကြီးကွင်း၊ ကန်ဆွယ်ကျေးရွာအုပ်စု၊ ပွင့်ဖြူမြို့နယ်၊ မင်းဘူးခရိုင်၊ မကွေးတိုင်းဒေသကြီးရှိ မြေဧရိယာ (၇.၆၇)ဧက |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - အမေရိကန်ဒေါ်လာ ၁.၁၈ သန်း |
| အရင်းကြေကာလ | - ၅ နှစ် နှင့် ၂ လ |
| IRR | - ၂၀% |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ(တစ်နှစ်) | ၁.၆၈၀ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၃၀.၄၀၀ | - |
| ၄ | ဝင်ငွေခွန် | ၂၂၀.၃၅၀ | ၈၁၁.၅၃၈ |
| ၅ | လျှပ်စစ်မီးသုံးစွဲခ | | ၁၂.၉၉၆ |
| ၆ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ၁၈.၀၀၀ |

| | | | |
|---|---|---|---|
| ၇ | CSR (၂%) | | ၅၀.၂၆၅ |
| ၈ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းဝန်ထမ်း ၈၉ ဦး အလုပ်အကိုင် ရရှိမည် ဖြစ်ပါသည်။ |
| | စုစုပေါင်း | ၂၅၃.၄၃၀ | ၈၉၃.၉၆၄ |
| ၉ | Cost : Benefit | ၁ : ၄ | |

အကြောင်းအရာ။ **ဖက်စပ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Known-You Seed Myanmar Company Limited မှ မျိုးစေ့စိုက်ပျိုး ထုတ်လုပ်ခြင်း နှင့် ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ကမကထပြုသူ | - Known-You Seed Myanmar Company Limited<br>- ဦးစိန်ဦး (ခ) ဦးလောရိန်ကြစ် (မြန်မာနိုင်ငံသား) |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Shall - Long Co., Ltd. (Taiwan) ၈၀%<br>- U Sein Oo (a) U Law Yain Kyit (Myanmar) ၂၀% |
| | လုပ်ငန်းအမျိုးအစား | - မျိုးစေ့စိုက်ပျိုး ထုတ်လုပ်ခြင်း နှင့် ရောင်းချခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - ဦးပိုင်အမှတ်(၂၁၊ ၁၉၊ ၂၀၊ ၂၂၊ ၁၈၊ ၄၅၊ ၄၆၊ ၄၇) ၊ ကွင်းအမှတ်-(၁၂)၊ တမာကုန်း၊ ဆည်ရွာကျေးရွာအုပ်စု၊ စဉ့်ကိုင်မြို့နယ်၊ ကျောက်ဆည်ခရိုင်၊ မန္တလေးတိုင်းဒေသကြီး<br>- ဦးပိုင်အမှတ်-(၁၁၀)၊ ကွင်းအမှတ်- (၈၈၈) ရွာသာကြီး ကွင်း၊ ကန်ဆွယ်ကျေးရွာအုပ်စု၊ ပွင့်ဖြူမြို့နယ်၊ မင်းဘူး ခရိုင်၊ မကွေးတိုင်းဒေသကြီး |
| | မြေပိုင်ရှင် | - ဦးဝင်းအောင် (မန္တလေးတိုင်းဒေသကြီး)<br>- ဦးဇာနည်အောင် (မကွေးတိုင်းဒေသကြီး) |
| | မြေအကျယ်အဝန်း | - မန္တလေးတိုင်းဒေသကြီးရှိ မြေဧရိယာ (၂၄.၁၆) ဧက (၉၇,၇၇၂.၁၄ စတုရန်း မီတာ) နှင့် မကွေးတိုင်းဒေသကြီး မြေဧရိယာ (၇.၆၇)ဧက (၃၁,၀၃၉.၄၂စတုရန်းမီတာ) စုစုပေါင်း မြေဧရိယာ (၃၁.၈၃) (၁၂၈၀၂၆.၀၄ စတုရန်းမီတာ) |

| | | |
|---|---|---|
| ၃။ | မြေနှင့်အဆောက်အဦ ငှားရမ်းခနှုန်း | - စဉ့်ကိုင်မြို့နယ်၊ ကျောက်ဆည်ခရိုင်၊ မန္တလေးတိုင်းဒေသကြီးရှိ မြေဧရိယာ (၂၄.၁၆) ဧကအတွက် တစ်နှစ်ငှားရမ်းခ US$ ၅၀၈၆.၃၂<br>- ပွင့်ဖြူမြို့နယ်၊ မင်းဘူးခရိုင်၊ မကွေးတိုင်းဒေသကြီးရှိ မြေဧရိယာ (၇.၆၇)ဧက အတွက် တစ်နှစ်ငှားရမ်းခ US$ ၄၈၄.၄၂ |
| | မြေငှားရမ်းကာလ | - ကနဦး (၅)နှစ် နှင့် သက်တမ်းတိုး (၁၀)နှစ် (၂) ကြိမ် |
| ၄။ | တည်ဆောက်ရေးကာလ | - ၁ နှစ် |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ထည့်ဝင်သည့်အမျိုးအစား | - **US$ ၁.၁၈ သန်း** |

| | ပြည်ပ | ပြည်တွင်း | စုစုပေါင်း |
|---|---|---|---|
| | | | **US $ (သန်း)** |
| ငွေသား | ၀.၁၅ | ၀.၁၇ | ၀.၃၂ |
| စက်ပစ္စည်းများ၊ စက်ကိရိယာများတန်ဖိုး | ၀.၅၉ | - | ၀.၅၉ |
| ကုန်ကြမ်း | ၀.၁၂ | - | ၀.၁၂ |
| စက်ပစ္စည်း (Spare Parts)များ တန်ဖိုး | ၀.၀၆ | - | ၀.၀၆ |
| လျှပ်စစ်ပစ္စည်းများတန်ဖိုး | ၀.၀၅ | | ၀.၀၅ |
| အခြား(အဆောက်အဦ) | - | ၀.၀၄ | ၀.၀၄ |
| **စုစုပေါင်း** | **၀.၉၇** | **၀.၂၁** | **၁.၁၈** |

| | | |
|---|---|---|
| ၆။ | ပြည်ပမှ အခွန်အကောက် ကင်းလွတ်ခွင့်ဖြင့် တင်သွင်းလိုသည့် စက်ပစ္စည်းများ | - ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းများကိုတင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၇။ | ဝန်ထမ်းအင်အား | - ၉၀ ဦး |
| | ပြည်တွင်း | - ၈၉ ဦး |
| | ပြည်ပ | - ၁ ဦး |
| | | (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၃၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပ ဝန်ထမ်း တစ်ဦး၏ လစာမှာ US$ ၂,၇၀၀ ဖြစ်ပါသည်။) |
| ၈။ | ရောင်းချမည့်စနစ် | - ပြည်ပ ၁၀၀% |
| ၉။ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဋ္ဌမမြောက်နှစ်) | - US $ ၀.၅၅ သန်း |
| | အသုံးစရိတ် | - US $ ၀.၃၈ သန်း |
| | အသားတင်အမြတ် | - US $ ၀.၁၇ သန်း |
| ၁၀။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (ဆဋ္ဌမမြောက်နှစ် ) | |
| | ဝင်ငွေခွန် | - US $ ၀.၀၆ သန်း |
| | အရင်းကြေကာလ | - ၅ နှစ် ၂ လ |
| | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၂၁% |
| ၁၁။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (ဆဋ္ဌမမြောက်နှစ်) | - ၆၅၀,၀၀၀ Unit |
| ၁၂။ | နှစ်စဉ်ထုတ်လုပ်မှု(ဆဋ္ဌမမြောက်နှစ်) | |

| ပစ္စည်းအမျိုးအစား | ထုတ်လုပ်မှု အရေအတွက် (Kg) | | ရောင်းဈေးနှုန်း (US$ /Kg) | |
|---|---|---|---|---|
| | Mandalay | Magway | Mandalay | Magway |
| Watermelon | ၁၀၆၅ | ၁၀၆၅ | ၅၀ | ၅၀ |
| Melon | ၁၃၃၁ | ၁၃၃၁ | ၇၀ | ၇၀ |

| | | ပစ္စည်းအမျိုးအစား | ထုတ်လုပ်မှု အရေအတွက် (Kg) | | ရောင်းဈေးနှုန်း (US$ /Kg) | |
|---|---|---|---|---|---|---|
| | | | Mandalay | Magway | Mandalay | Magway |
| | | Tomato | ၂၆၆ | ၂၆၆ | ၁၅၀ | ၁၅၀ |
| | | Pumpkin | ၂၆၆ | ၂၆၆ | ၂၀ | ၂၀ |
| | | Balsam Pear | ၃၃၃ | ၃၃၃ | ၅၀ | ၅၀ |
| | | Cucumber | ၁၃၃၁ | ၁၃၃၁ | ၅၀ | ၅၀ |
| ၁၃။ | စိစစ်တင်ပြချက် | | - ကုမ္ပဏီမှ ၂၀၁၅ ခုနှစ် ဇန်နဝါရီလ ၂၀ ရက်နေ့တွင် ကော်မရှင်သို့ တင်ပြခဲ့သည့် အဆိုပြုလုပ်ငန်းအား ၂၀၁၅ ခုနှစ် ဖေဖော်ဝါရီလ ၉ ရက်နေ့တွင် ကျင်းပသော အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၆/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ကော်မရှင်မှ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာ တိုင်းဒေသကြီး အစိုးရအဖွဲ့ရုံးများနှင့် ဝန်ကြီးဌာနများသို့ သဘောထားများ တောင်းခံခဲ့ရာ မကွေးတိုင်းဒေသကြီးအစိုးရအဖွဲ့မှ "အဆိုပြုတင်ပြထားသည့် မြေနေရာသည် မြေပြင်စိစစ်တွေ့ရှိမှုနှင့် ကွဲလွဲလျက်ရှိသဖြင့် လုပ်ငန်း ဆောင်ရွက်ခွင့် မပြုသင့်ပါကြောင်း" သဘောထား ပြန်ကြားလာပါသဖြင့် အဆိုပြုလုပ်ငန်း ဆောင်ရွက်နိုင်မည့် မြေနေရာအား ပြင်ဆင် တင်ပြနိုင်ရန်အတွက် ကော်မရှင်မှ ၂၀၁၅ ခုနှစ် မတ်လ ၂၆ ရက်စွဲပါစာဖြင့် အဆိုပြုလွှာအား ပြန်လည် ပေးပို့ခဲ့ပါသည်။<br>- ယခုအခါ ကုမ္ပဏီမှ အဆိုပြုလုပ်ငန်းအား မန္တလေးတိုင်းဒေသကြီးနှင့် မကွေးတိုင်းဒေသကြီးတို့ရှိ အဆိုပြုမြေနေရာများတွင်သာ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလွှာ | | | |

| | | |
|---|---|---|
| | | အား တတိယအကြိမ် ပြန်လည် တင်ပြလာခြင်းဖြစ်ပါသည်။ အဆိုပြုတင်ပြလာသည့် မြေနေရာအား မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ နှင့် မကွေးတိုင်းဒေသကြီး အစိုးရအဖွဲ့တို့မှ ကန့်ကွက်ရန် မရှိပါကြောင်း သဘောထား ပြန်ကြားထားပြီး ဖြစ်ပါသည်။<br>- နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ပုဂ္ဂလိကမြေတွင် ငှားရမ်း ဆောင်ရွက်ခွင့် ပြုရန် ကိစ္စကို ကော်မရှင်၏ ၃/၂၀၁၅ (၂၇-၂-၂၀၁၅) နှင့် ၉/၂၀၁၅ (၁၈-၅-၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ လည်းကောင်း၊ စီးပွားရေးရာ ကော်မတီ၏ ၇/၂၀၁၅ (၂-၄-၂၀၁၅)နှင့် ၉/၂၀၁၅ (၂၈-၅-၂၀၁၅)ကြိမ်မြောက် အစည်းအဝေးသို့ လည်းကောင်း၊ ပြည်ထောင်စုအစိုးရအဖွဲ့၏ ၈/၂၀၁၅ (၉-၄-၂၀၁၅)နှင့် ၁၃/၂၀၁၅ (၂၅-၆-၂၀၁၅)ကြိမ်မြောက် အစည်းအဝေးသို့ လည်းကောင်း တင်ပြ၍ သဘောတူခွင့်ပြုချက် ရရှိပြီးဖြစ်ပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၂/ န-၁၁၅ /၂၀၁၆ ( ၀၈၂ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဇန်နဝါရီလ ၂၈ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **ဖက်စပ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Known-You Seed Myanmar Company Limited မှ မျိုးစေ့စိုက်ပျိုး ထုတ်လုပ်ခြင်း နှင့် ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စ**

၁။ ထိုင်ဝမ် Shall - Long Company Limited မှ ၈၀% နှင့် မြန်မာနိုင်ငံသား ဦးစိန်ဦး (ခ) ဦးလောရိန်ကြစ်မှ ၂၀% အစုရှယ်ယာများ ထည့်ဝင်ကာ ဖက်စပ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Known- You Seed Myanmar Company Limited တည်ထောင်၍ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ စဉ့်ကိုင်မြို့နယ်၊ ဆည်ရွာကျေးရွာအုပ်စု၊ တမာကုန်း၊ ကွင်းအမှတ်-(၁၂)၊ ဦးပိုင်အမှတ်(၂၁၊ ၁၉၊ ၂၀၊ ၂၂၊ ၁၈၊ ၄၅၊ ၄၆၊ ၄၇) ရှိ မြေဧရိယာ (၂၄.၁၆) ဧက နှင့် မကွေးတိုင်းဒေသကြီး၊ မင်းဘူးခရိုင်၊ ပွင့်ဖြူမြို့နယ်၊ ကန်ဆွယ်ကျေးရွာအုပ်စု၊ ကွင်းအမှတ်- (၈၈၈) ရွာသာကြီးကွင်း၊ ဦးပိုင်အမှတ် - (၁၁၀)ရှိ မြေ(၇.၆၇)ဧက စုစုပေါင်း မြေဧရိယာ (၃၁.၈၃)ဧကကို ငှားရမ်း၍ မျိုးစေ့စိုက်ပျိုး ထုတ်လုပ်ခြင်း နှင့် ရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့် ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြု တင်ပြလာပါ သည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် ဦးဝင်းအောင် နှင့် Known- You Seed Myanmar Company Limited တို့ကြား ချုပ်ဆိုမည့် မြေငှားရမ်းစာချုပ် (မူကြမ်း)၊ ဦးဇာနည်အောင် နှင့် Known- You Seed Myanmar Company Limited တို့ကြား ချုပ်ဆိုမည့် မြေငှားရမ်းစာချုပ် (မူကြမ်း) ၊ ထိုင်ဝမ်နိုင်ငံ မှ Shall - Long Company Limited နှင့် မြန်မာနိုင်ငံ မှ ဦးစိန်ဦး (ခ) ဦးလောရိန်ကြစ် တို့အကြား ချုပ်ဆိုမည့် ဖက်စပ်စာချုပ်(မူကြမ်း) နှင့် မြေအထောက်အထားများကို တင်ပြထားပါသည်။

၃။ လုပ်ငန်း ဆောင်ရွက်မည့် မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ စဉ့်ကိုင်မြို့နယ်ရှိ မြေဧရိယာ (၂၄.၁၆)ဧက (၉၇,၇၇၂.၁၄ စတုရန်းမီတာ)အား တစ်နှစ်ငှားရမ်းခ US$ ၅၀၈၆.၃၂ နှင့် မကွေးတိုင်းဒေသကြီး မင်းဘူးခရိုင်၊ ပွင့်ဖြူမြို့နယ်ရှိ မြေဧရိယာ (၇.၆၇)ဧက (၃၁,၀၃၉.၄၂ စတုရန်းမီတာ)အား တစ်နှစ်ငှားရမ်းခ US$ ၄၈၄.၄၂ ရရှိမည် ဖြစ်ပါသည်။

၄။ တည်ဆောက်ရေးကာလမှာ ၁ နှစ် ဖြစ်ပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုပုံစံမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

**US$ (သန်း)**

| | | ပြည်ပ (၈၀%) | ပြည်တွင်း (၂၀%) | စုစုပေါင်း |
|---|---|---|---|---|
| (က) | ငွေသား | ၀.၁၅ | ၀.၁၇ | ၀.၃၂ |
| (ခ) | စက်ပစ္စည်းများ၊ စက်ကိရိယာများတန်းဖိုး | ၀.၅၉ | - | ၀.၅၉ |
| (ဂ) | ကုန်ကြမ်း | ၀.၁၂ | - | ၀.၁၂ |
| (ဃ) | စက်ပစ္စည်း (Spare Parts)များတန်ဖိုး | ၀.၀၆ | - | ၀.၀၆ |
| (င) | လျှပ်စစ်ပစ္စည်းများတန်ဖိုး | ၀.၀၅ | | ၀.၀၅ |
| (စ) | အခြား(အဆောက်အဦ) | - | ၀.၀၄ | ၀.၀၄ |
| | **စုစုပေါင်း** | **၀.၉၇** | **၀.၂၁** | **၁.၁၈** |

၆။ မျိုးစေ့စိုက်ပျိုးခြင်း၊ ထုတ်လုပ်ခြင်း အဆင့်ဆင့် လုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း ဝန်ထမ်း(၈၉)ဦး နှင့် ပြည်ပ (၁)ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၃၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပ ဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၂,၇၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထုတ်ကုန်များကို ပြည်ပသို့ ၁၀၀% တင်ပို့ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ် (ဆဌမမြောက်နှစ်) ထုတ်လုပ်မှု နှင့် ရောင်းချမှု ဈေးနှုန်းမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-

| ပစ္စည်း အမျိုးအစား | ထုတ်လုပ်မှု အရေအတွက် (Kg) | | ရောင်းဈေးနှုန်း (US$ /Kg) | |
|---|---|---|---|---|
| | Mandalay | Magway | Mandalay | Magway |
| Watermelon | ၁၀၆၅ | ၁၀၆၅ | ၅၀ | ၅၀ |
| Melon | ၁၃၃၀ | ၁၃၃၀ | ၇၀ | ၇၀ |
| Tomato | ၂၆၆ | ၂၆၆ | ၁၅၀ | ၁၅၀ |
| Pumpkin | ၂၆၆ | ၂၆၆ | ၂၀ | ၂၀ |
| Balsam Pear | ၃၃၃ | ၃၃၃ | ၅၀ | ၅၀ |
| Cucumber | ၁၃၃၀ | ၁၃၃၀ | ၅၀ | ၅၀ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

**US $ (သန်း)**

| | | | |
|---|---|---|---|
| (က) | ဝင်ငွေ | - | ၀.၅၅ |
| (ခ) | အသုံးစရိတ် | - | ၀.၃၈ |
| (ဂ) | အသားတင်အမြတ် | - | ၀.၁၇ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ (ဆဋ္ဌမမြောက်နှစ်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် အမေရိကန်ဒေါ်လာ ၀.၀၆ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၅ နှစ် နှင့် ၂ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၂၁% ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ တစ်ဒေါ်လာလျှင် ၉၅၀ ကျပ်နှုန်းဖြင့် တွက်ချက်ထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါ သည် -

(က) **မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့** မှ အဆိုပါ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းနှင့် ပတ်သက်ပြီး ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်မည့် မျိုးစေ့စိုက်ပျိုး ထုတ်လုပ်ခြင်းအဆင့်ဆင့်နှင့် ရောင်းချခြင်းလုပ်ငန်းသည် ဒေသဖွံ့ဖြိုးတိုးတက်မည့် လုပ်ငန်းကြီးတစ်ခုဖြစ်ကြောင်း၊ လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်မှု မရှိပါကြောင်း၊ မြို့နယ်ဒေသအလုပ်အကိုင်၊ အခွင့်အလမ်းများနှင့် ဒေသစီးပွားရေး

မျိုးကောင်းမျိုးသန့်များ ထုတ်လုပ်ပေးနိုင်မည်ဖြစ်ပါကြောင်း၊ အဆိုပါ လုပ်ငန်းဆောင်ရွက်ခြင်းအပေါ် ဒေသခံလူမှုရေး၊ စီးပွားရေးအကျိုးအမြတ်ပေးနိုင်ခြင်း၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့ကို ထိခိုက်နိုင်မှု မရှိပါကြောင်း၊ မျိုးစေ့စိုက်ပျိုးထုတ်လုပ်ခြင်း အဆင့်ဆင့်နှင့် ရောင်းချခြင်း လုပ်ငန်းအား (၂၇-၂-၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် (၅/၂၀၁၅)ဆုံးဖြတ်ချက်အပိုဒ်(၈၁)အရ ကန့်ကွက်ရန် မရှိပါကြောင်းသဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

**(နောက်ဆက်တွဲ - က)**

(ခ) **မကွေးတိုင်းဒေသကြီးအစိုးရအဖွဲ့** မှ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် ပွင့်ဖြူမြို့နယ်၏ နောင်ပြုလုပ်မည့်(သို့)လက်ရှိမြို့ပြ စီမံကိန်းကို ထိခိုက်မှုမရှိကြောင်း၊ ဒေသခံလူထုအနေဖြင့် အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူပြုနိုင်မည်ဖြစ်ကြောင်း၊ အဆိုပြုမြေနေရာအား မျိုးစေ့စက်ရုံအတွက် အသုံးပြုခြင်းအပေါ် ဒေသခံပြည်သူများအနေဖြင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုအရ လက်ခံဆောင်ရွက်နိုင်မှုပြုနိုင်မည့် နေရာဖြစ်ကြောင်း၊ လျှောက်ထား မြေနေရာသည် လမ်းပန်းဆက်သွယ်ရေးအရ ကောင်းမွန်သည့် နေရာဖြစ်ကြောင်း နှင့် အနီးပတ်ဝန်းကျင်တွင် ကန်ဆွယ်ကျေးရွာ၊ ရွာသာကြီးကျေးရွာနှင့် စေတကူကျေးရွာတို့ တည်ရှိသဖြင့် လုပ်ငန်းဆောင်ရွက်ရန် လုပ်သားအင်အား အလယ်တကူရရှိနိုင်မည့်နေရာဖြစ်ကြောင်း၊ လျှောက်ထားမြေနေရာသည် ကန်ဆွယ်ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၈၈၈/ရွာသာကြီးကွင်း)အတွင်း တည်ရှိကြောင်း၊ အဆိုပြုတင်ပြသည့်မြေဧရိယာ(၁၂.၇၄)ဧကတွင် လယ်မြေ (၅.၀၇)ဧကပါရှိသဖြင့် ကျန်ယာမြေ(၇.၆၇)ဧကသာလျှင် ခွင့်ပြုသင့်ကြောင်း၊ (၂၈-၄-၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မကွေးတိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် (၁၃/၂၀၁၅) ဆုံးဖြတ်ချက်အပိုဒ် (၂၂)အရ အဆိုပြုတင်ပြသည့် မြေဧရိယာ(၁၂.၇၄)ဧကတွင် လယ်မြေ(၅.၀၇)ဧကအား ချန်လပ်၍ ကျန်ယာမြေ(၇.၆၇)ဧကကိုသာ ခွင့်ပြုသင့်ကြောင်း သဘောထား မှတ်ချက် ပြန်ကြားထားပါသည်။

**(နောက်ဆက်တွဲ-ခ)**

(ဂ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်-

(၁) အဆိုပါ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းတစ်ခုချင်းစီအလိုက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းလမ်းနှင့် အစီအမံများ ထည့်သွင်းဆောင်ရွက်ရန်၊

(၂) အဆိုပါ ဝန်ဆောင်မှု လုပ်ငန်းများ ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများ မဖြစ်ပေါ်စေရေး သို့မဟုတ် ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်များ၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးသည့်စနစ်၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေနှင့် ဝန်ဆောင်မှုလုပ်ငန်း အစီအမံများပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan- EMP)ကို လုပ်ငန်းဆောင်ရွက် လုပ်ကိုင်မည့် ဒေသ တစ်ခုချင်းစီအလိုက် ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင် အထည်ဖော် ဆောင်ရွက်ရန်၊

(၃) လူမှုရေးဆိုင်ရာ တာဝန်ခံ ဆောင်ရွက်မှု (Corporate Social Responsibility- CSR)အရ ဒေသခံပြည်သူများ၏ စီးပွားရေးနှင့် လူမှုရေး လျင်မြန်စွာဖွံ့ဖြိုးတိုးတက်စေမည့် အစီအစဉ်များကို ဆောင်ရွက်ရ မည့်အပြင် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး လုပ်ငန်းများကိုပါ ထည့်သွင်းဆောင်ရွက်ရန်၊

(၄) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် ဒေသခံ ပြည်သူလူထုတို့၏ ဆန္ဒ နှင့် သဘောထားမှတ်ချက် ရယူဆောင်ရွက်ရန်၊

(၅) သတ်မှတ်ထုတ်ပြန်ထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာ

[ကုမ္ပဏီမှ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနမှ သဘောထားမှတ်ချက်အရ ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan- EMP)ကို ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထား ပါသည်။]

(ဃ) **လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန** မှ အဆိုပြုတင်ပြလာသည့် လုပ်ငန်းနှင့် စပ်လျဉ်း၍ မျိုးစေ့ကဏ္ဍဖွံ့ဖြိုးတိုးတက်ရေး အထောက်အကူများစွာ ရရှိနိုင်မည်ဖြစ်ပါသဖြင့် ထောက်ခံပါကြောင်း သဘောထားမှတ်ချက် ပြန်ကြား ထားပါသည်။ **(နောက်ဆက်တွဲ - ဃ)**

၁၁။ ငွေရေးကြေးရေး အထောက်အထားအဖြစ် ဟောင်ကောင်နိုင်ငံရှိ Shall-Long Co., Ltd. အမည်ဖြင့် DBS ဘဏ်တွင် ၂၀-၁-၂၀၁၆ ရက်စွဲဖြင့် US$ ၂,၁၇၁,၅၁၄.၃၂ နှင့် မြန်မာနိုင်ငံမှ ဦးစိန်ဦး(ခ) ဦးလောရိန်ကြစ် အမည်ဖြင့် AYA Bank တွင် (၁၉-၁-၂၀၁၆)ရက်စွဲဖြင့် ကျပ် ၁၃၂,၄၉၃,၆၅၉.၂၂ ၊ ဒါရိုက်တာ အဖွဲ့ဝင်များ၏ Passport မိတ္တူများနှင့် နိုင်ငံသား မှတ်ပုံတင် မိတ္တူများကို တင်ပြထားပါသည်။

၁၂။ Known-You Seed Myanmar Company Limited မှ ထုတ်လုပ်မှု လုပ်ငန်း အဆင့်ဆင့်၊ လုပ်ငန်းတွင် အသုံးပြုမည့် စက်ပစ္စည်းများ နမူနာပုံများ၊ စိုက်ပျိုးထုတ်လုပ်ရာတွင် အသုံးပြုမည့် ပစ္စည်းနမူနာပုံများ၊ စိုက်ပျိုးမည့် မျိုးစေများ နမူနာပုံ၊ အသုံးပြုမည့် မြေဩဇာနမူနာပုံ၊ လျှပ်စစ် ဓါတ်အား ရယူသုံးစွဲမည့်အစီအစဉ်၊ မီးဘေးကြိုတင် ကာကွယ်ရေး စီမံချက်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး စီမံချက်အစီအစဉ်၊ လုပ်ငန်းခွင် သာယာရေးအတွက် ဆောင်ရွက်ထားရှိမှု၊ ကျန်းမာရေးနှင့် လုပ်ငန်းခွင်အန္တရာယ် ကင်းရှင်းရေး ဆောင်ရွက်ထားရှိမှု၊ ဝန်ထမ်းများအတွက် ကျန်းမာရေး၊ လူမှုရေးစောင့်ရှောက်ထားရှိမည့် အစီအစဉ်များ ကတိ ဝန်ခံချက်တို့ကို တင်ပြထားပါသည်။

၁၃။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၂)၊ ပုဒ်မ ၂၇ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြ လျှောက်ထားလျှင် ခွင့်ပြုနိုင်မည် ဖြစ်ပါ သည်။

၁၄။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၆/၂၀၁၅ (၉-၂-၂၀၁၅) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၅။ **စိစစ်တင်ပြချက်**

(က) ကုမ္ပဏီမှ ၂၀၁၅ ခုနှစ် ဇန်နဝါရီလ ၂၀ ရက်နေ့တွင် ကော်မရှင်သို့ တင်ပြခဲ့သည့် အဆိုပြုလုပ်ငန်းအား ၂၀၁၅ ခုနှစ် ဖေဖော်ဝါရီလ ၉ ရက်နေ့တွင် ကျင်းပသော

အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၆/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ကော်မရှင်မှ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာ တိုင်းဒေသကြီး အစိုးရအဖွဲ့ရုံးများနှင့် ဝန်ကြီးဌာနများသို့ သဘောထားများ တောင်းခံခဲ့ရာ မကွေးတိုင်းဒေသကြီးအစိုးရအဖွဲ့မှ “အဆိုပြုတင်ပြထားသည့် မြေနေရာသည် မြေပြင်စိစစ်တွေ့ရှိမှုနှင့် ကွဲလွဲလျက်ရှိသဖြင့် လုပ်ငန်း ဆောင်ရွက်ခွင့် မပြုသင့်ပါကြောင်း” သဘောထားပြန်ကြားလာပါသဖြင့် အဆိုပြုလုပ်ငန်း ဆောင်ရွက်နိုင်မည့် မြေနေရာအား ပြင်ဆင် တင်ပြနိုင်ရန်အတွက် ကော်မရှင်မှ ၂၀၁၅ ခုနှစ် မတ်လ ၂၆ ရက်စွဲပါစာဖြင့် အဆိုပြုလွှာအား ပြန်လည် ပေးပို့ခဲ့ပါသည်။

(ခ) ယခုအခါ ကုမ္ပဏီမှ အဆိုပြုလုပ်ငန်းအား မန္တလေးတိုင်းဒေသကြီးနှင့် မကွေးတိုင်းဒေသကြီးတို့ရှိ အဆိုပြုမြေနေရာများတွင်သာ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလွှာအား တတိယအကြိမ် ပြန်လည် တင်ပြလာခြင်းဖြစ်ပါသည်။ အဆိုပြုတင်ပြလာသည့် မြေနေရာအား မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ နှင့် မကွေးတိုင်းဒေသကြီး အစိုးရအဖွဲ့တို့မှ ကန့်ကွက်ရန် မရှိပါကြောင်း သဘောထား ပြန်ကြားထားပြီး ဖြစ်ပါသည်။

(ဂ) နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ပုဂ္ဂလိက မြေတွင် ငှားရမ်း ဆောင်ရွက်ခွင့်ပြုရန်ကိစ္စကို ကော်မရှင်၏ ၃/၂၀၁၅ (၂၇-၂-၂၀၁၅) နှင့် ၉/၂၀၁၅ (၁၈-၅-၂၀၁၅)ကြိမ်မြောက် အစည်းအဝေးသို့ လည်းကောင်း၊ စီးပွားရေးရာ ကော်မတီ ၏ ၇/၂၀၁၅ (၂-၄-၂၀၁၅)နှင့် ၉/၂၀၁၅ (၂၈-၅-၂၀၁၅)ကြိမ်မြောက် အစည်းအဝေးသို့ လည်းကောင်း၊ ပြည်ထောင်စုအစိုးရအဖွဲ့၏ ၈/၂၀၁၅ (၉-၄-၂၀၁၅) နှင့် ၁၃/၂၀၁၅ (၂၅-၆-၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ လည်းကောင်း တင်ပြ၍ သဘောတူ ခွင့်ပြုချက် ရရှိပြီးဖြစ်ပါသည်။

(ဃ) အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၂၀၁၄ ခုနှစ် ဩဂုတ်လ ၁၄ ရက်နေ့ ရက်စွဲဖြင့် ထုတ်ပြန်ထားသော အမိန့်ကြော်ငြာစာအမှတ် ၄၉ / ၂၀၁၄ ၏ စီးပွားရေး လုပ်ငန်း အမျိုးအစားများ ပြင်ဆင်သတ်မှတ်ခြင်းတွင် ခွင့်မပြုသည့် လုပ်ငန်း၊ ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ရမည့် လုပ်ငန်း၊ ကန့်သတ်ချက်

တစ်ရပ်ရပ်ကို လိုက်နာ ဆောင်ရွက်ရမည့် လုပ်ငန်းစာရင်းတွင် ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ရမည့် လုပ်ငန်းအမျိုးအစားတွင် ပါဝင်သဖြင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ခွင့်ပြုနိုင်သော လုပ်ငန်းအမျိုးအစား ဖြစ်ပါသည်။

(င) အဆိုပြုတင်ပြလာသော လုပ်ငန်းနှင့်အလားတူ ဖြစ်သည့် Nongwoo Seed Myanmar Company Limited မှ စပ်မျိုးသခွား၊ စပ်မျိုးခရမ်းချဉ်၊ ငရုတ်သီး၊ ဖရဲသီး၊ ဂေါ်ဖီထုပ်၊ ပန်းဂေါ်ဖီ၊ မုန်လာဥဖြူ၊ မုန်လာဥနီ၊ ကြက်သွန်နီ၊ ဆလတ်ရွက်၊ ဟင်းနုနွယ်၊ ပန်းမုန်လာမျိုးစေ့များ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်အမှတ် ၄၉၂/၂၀၁၂ (၃၁-၇-၂၀၁၂) ရက်စွဲဖြင့် ဆောင်ရွက်လျက် ရှိပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၆။ ဖက်စပ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Known-You Seed Myanmar Company Limited မှ မျိုးစေ့စိုက်ပျိုး ထုတ်လုပ်ခြင်း နှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြု တင်ပြလာခြင်းအပေါ် ခွင့်ပြုရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

# ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | Known-You Seed Myanmar Company Limited | **Shall-Long Co., Ltd.**<br>Represented by: | |
| | | (၁) Mr. Chen, Lung-Mu<br>Director<br>Taiwanese<br>307870471 | No. (15), Ln.2, Wenqian Rd., Niaosong Dist., Kaohsiung City 833, Taiwan (R.O.C). |
| | | (၂) Mr. Kuo Kun-Shih<br>Director<br>Taiwanese<br>212901730 | No. (20), Aly. 2, Ln. 58, Renguang Rd., Renwu Dist., Kaohsiung City 814, Taiwan (R.O.C). |
| | | (၃) Mr. Cho, Sheng-Chung<br>Director<br>Taiwanese<br>301056990 | 20 F., No. 116-1, Mingcheng 2nd Rd., Sanmin Dist., Kaohsiung City 807, Taiwan (R.O.C). |
| | | (၄) Mr. Li, Wen- Ti<br>Director<br>Taiwanese<br>302432863 | No. 73-1, Zhongshan Rd., Fengshan Dist., Kaohsiung City 830, Taiwan (R.O.C). |
| | | Represented by:<br>(၅) U Sein Oo @ U Law Yain Kyit<br>Director<br>Myanmar<br>12/BaTaHta(Naing) 028676 | No. 92/94, 3rd Floor, Bogalay Zay Street, Ward No.(8), Botahtaung Tsp, Yangon Region. |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၉- ၅၀၁၅၃၁၂၊ ၀၉- ၅၀၁၅၂၉၄

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ - အမှတ်(၉၂/၉၄)၊ တတိယထပ်၊ ဘိုကလေးဈေးလမ်း၊ (၈)ရပ်ကွက်၊ ဗိုလ်တစ်ထောင်မြို့နယ်၊ ရန်ကုန်မြို့

| | | |
|---|---|---|
| ၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး | - ဦးစိန်းဦး (ခ) ဦးလောရိန်ကြစ် (ဒါရိုက်တာ) | |
| ၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ | - မျိုးစေ့စိုက်ပျိုး ထုတ်လုပ်ခြင်း နှင့် ရောင်းချခြင်းလုပ်ငန်း | |
| ၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ | - | - |
| ၆။ ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ | - | - |
| ၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် | - | - |

FROM :

နောက်ဆက်တွဲ(က)



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး
မန္တလေးမြို့

စာအမှတ်၊ ၂/ ၃ - ၅ /၃၂ ဦး ၆( ၀၄၃ )
ရက် စွဲ ၊ ၂၀၁၅ ခုနှစ်၊ မတ် လ ၉ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားပြန်ကြားခြင်း**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ ရန်ကုန်မြို့၏ (၁၁.၂.၂၀၁၅)ရက်စွဲပါ စာအမှတ်၊ ရက-၂ / န-၁၁၅ / ၂၀၁၅ (၁၁၁)

၁။ စဉ့်ကိုင်မြို့နယ်၊ ဆည်ရွာကျေးရွာ၊ ကွင်းအမှတ်(၁၂)၊ တမာကုန်း၊ ဦးပိုင်အမှတ်(၁၉၊ ၂၀၊ ၂၁၊ ၂၂၊ ၁၈၊ ၄၅၊ ၄၆၊ ၄၇)ရှိ မြေဧရိယာ(၂၄.၁၆)ဧကအား ငှားရမ်းပြီး ထိုင်ဝမ် Shall – Long Co.,Ltd မှ ၈၀%၊ မြန်မာနိုင်ငံသား ဦးစိန်ဦး(ခ)ဦးလောရိန်ကြစ်မှ ၂၀% ထည့်ဝင်၍ မျိုးစေ့စိုက်ပျိုးထုတ်လုပ်ခြင်း အဆင့်ဆင့်နှင့် ရောင်းချခြင်းလုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်မည့်အပေါ် တိုင်းဒေသကြီးအစိုးရအဖွဲ့၏ သဘောထားပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည်။

၂။ အဆိုပါ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းနှင့်ပတ်သက်ပြီး ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်မည့် မျိုးစေ့စိုက်ပျိုးထုတ်လုပ်ခြင်းအဆင့်ဆင့်နှင့် ရောင်းချခြင်းလုပ်ငန်းသည် ဒေသဖွံ့ဖြိုးတိုးတက်မည့် လုပ်ငန်းကြီးတစ်ခုဖြစ်သည့်အပြင် အောက်ဖော်ပြပါအတိုင်း တွေ့ရှိရပါသည် -

(က) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်မှုမရှိပါ၊

(ခ) မြို့နယ်ဒေသအလုပ်အကိုင်၊ အခွင့်အလမ်းများနှင့်ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်ရေး အထောက်အကူဖြစ်စေခြင်း၊ စိုက်ပျိုးရေးလုပ်ငန်းအတွက် မျိုးကောင်းမျိုးသန့်များ ထုတ်လုပ်ပေးနိုင်မည်ဖြစ်ပါသည်၊

(ဂ) အဆိုပါ လုပ်ငန်းဆောင်ရွက်ခြင်းအပေါ် ဒေသခံလူမှုရေး၊ စီးပွားရေးအကျိုးအမြတ် ပေးနိုင်ခြင်း၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့ကို ထိခိုက်နိုင်မှုမရှိပါ ၊

(ဃ) တိုင်းဒေသကြီးအစိုးရအဖွဲ့မှ အကြံပြုရန်မရှိပါ ။

၃။ သို့ဖြစ်ပါ၍ ထိုင်ဝမ် Shall – Long Co.,Ltd မှ ၈၀% ၊ မြန်မာနိုင်ငံသား ဦးစိန်ဦး(ခ) ဦးလောရိန်ကြစ်မှ ၂၀% ထည့်ဝင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုအဖြစ် ပူးပေါင်းဆောင်ရွက်မည့် မျိုးစေ့စိုက်ပျိုးထုတ်လုပ်ခြင်းအဆင့်ဆင့်နှင့် ရောင်းချခြင်းလုပ်ငန်းအား (၂၇.၂.၂၀၁၅) ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ်(၅/၂၀၁၅) ဆုံးဖြတ်ချက်အပိုဒ် (၈၁)အရ ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ရဲမြင့်
ဝန်ကြီးချုပ်

မိတ္တူကို
လုည့်လည်စာတွဲ ၊
ရုံးလက်ခံ ။

နောက်ဆက်တွဲ(ခ)

MIC, 34
4/15

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## တိုင်းဒေသကြီးအစိုးရအဖွဲ့
## မကွေးတိုင်းဒေသကြီး




စာအမှတ်၊ ၅ / ၄၃ - ၂၈၆ (၂) / ဦး ၆
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဧပြီလ ၂၉ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး
ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ ( ၁ ) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး၏ ၂၂.၁.၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၂ / န - ၁၁၅ / ၂၀၁၅ (၀၄၆)
( ၂ ) ဤရုံး၏ ၁၆.၂.၂၀၁၅ ရက်စွဲပါစာအမှတ်၊ ၅ / ၄၃ - ၂၈၆ / ဦး ၆
( ၃ ) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး၏ ၇.၄.၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၂ / န - ၁၁၁ / ၂၀၁၅ (၂၆၉)

၁။ ထိုင်ဝမ် Shall-Long Co.,Ltd မှ ၈၀ % နှင့် မြန်မာနိုင်ငံသား ဦးစိန်ဦး(ခ) ဦးလောရိန်ကြစ်မှ ၂၀ % အစုရှယ်ယာများထည့်ဝင်၍ မြန်မာနိုင်ငံတွင် Known-You Seed Myanmar Company Limited တည်ထောင်ပြီး ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မကွေးတိုင်းဒေသကြီး၊ မင်းဘူးခရိုင်၊ ပွင့်ဖြူမြို့နယ်တွင် မူလအဆိုပြုတင်ပြထားရှိသည့် မြေနေရာအစား ကန်ဆွယ်ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၈၈၈) ရွာသာကြီးကွင်း၊ ဦးပိုင်အမှတ် (၁၂၈၊၁၁၀)ရှိ စုစုပေါင်းမြေဧရိယာ (၁၂.၇၄)ဧကအား ငှားရမ်း၍ မျိုးစေ့စိုက်ပျိုးထုတ်လုပ်ခြင်း အဆင့်ဆင့်နှင့် ရောင်းချခြင်းလုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုရန် ထပ်မံအဆိုပြု တင်ပြထားရှိမှုအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးရန် ရည်ညွှန်း(၃)ပါစာဖြင့် ညှိနှိုင်းအကြောင်းကြား ချက်အရ တိုင်းဒေသကြီးအထွေထွေအုပ်ချုပ်ရေးဦးစီးဌာနသို့စိစစ်တင်ပြစေခဲ့ရာ အောက်ပါအတိုင်းစိစစ်တင်ပြ လာပါသည် -

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် ပွင့်ဖြူမြို့နယ်၏ နောင်ပြုလုပ်မည့် (သို့) လက်ရှိမြို့ပြ စီမံကိန်းကို ထိခိုက်မှုမရှိကြောင်း၊

( ခ ) ဒေသခံလူထုအနေဖြင့် အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူပြုနိုင်မည်ဖြစ်ကြောင်း၊

[illegible] အပေါ် ဒေသခံပြည်သူများ အနေဖြင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုအရ လက်ခံဆောင်ရွက်နိုင်မှုပြုနိုင်မည့် နေရာ ဖြစ်ကြောင်း၊

(ဃ) လျှောက်ထားမြေနေရာသည် လမ်းပန်းဆက်သွယ်ရေးအရ ကောင်းမွန်သည့်နေရာဖြစ်ကြောင်းနှင့် အနီးပတ်ဝန်းကျင်တွင် ကန်ဆွယ်ကျေးရွာ၊ ရွာသာကြီးကျေးရွာနှင့် စေတကူကျေးရွာတို့တည်ရှိသဖြင့် လုပ်ငန်းဆောင်ရွက်ရန် လုပ်သားအင်အား အလွယ်တကူရရှိနိုင်မည့်နေရာဖြစ်ကြောင်း၊

( င ) လျှောက်ထားမြေနေရာသည် ကန်ဆွယ်ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၈၈၈/ရွာသာကြီးကွင်း) အတွင်း တည်ရှိကြောင်း၊

( စ ) အဆိုပြုတင်ပြသည့် မြေဧရိယာ(၁၂.၇၄)ဧကတွင် လယ်မြေ(၅.၀၇)ဧကပါရှိသဖြင့် ကျန်ယာမြေ(၇.၆၇)ဧကသာလျှင် ခွင့်ပြုသင့်ကြောင်း၊

၂။ အဆိုပါကိစ္စနှင့်ပတ်သက်ပြီး (၂၈.၄.၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မကွေးတိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးမှတ်တမ်းအမှတ်စဉ်(၁၃/၂၀၁၅)၊ ဆုံးဖြတ်ချက်အပိုဒ်(၂၂)အရ အထက်အပိုဒ်(၁)ပါအချက်အလက်များအား သိရှိဆောင်ရွက်နိုင်ရန်နှင့် အဆိုပြုတင်ပြသည့် မြေဧရိယာ(၁၂.၇၄)ဧကတွင် လယ်မြေ(၅.၀၇)ဧကအားချန်လှပ်၍ ကျန်ယာမြေ(၇.၆၇)ဧကကိုသာခွင့်ပြုသင့်ကြောင်း ပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ် ( ကိုယ်စား )
( နေဝင်း၊ အတွင်းရေးမှူး )

မိတ္တူကို

လက်ခံစာတွဲ
မျှောစာတွဲ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

NPF. 0775
10.2.2015

စာအမှတ် ၂/၂၂၀(ခ)(၆)/( ၁၀၃၂ /၂၀၁၅)
ရက်စွဲ ၂၀၁၅ခုနှစ်၊ဖေဖော်ဝါရီလ ၉ ရက်

သို့

MIC 21/11/2

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၂-၁-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက-၂/ န-၁၁၅ /၂၀၁၅(၀၄၇)

၁။ ထိုင်ဝမ် Shall- Long Co., Ltd. မှ (၈၀%) နှင့် မြန်မာနိုင်ငံသား ဦးစိန်ဦး(ခ) ဦးလောရိန်ကြစ်မှ (၂၀%) အစုရှယ်ယာများ ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Known-You Seed Myanmar Company Limited တည်ထောင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ပိုင်းခရိုင်၊ ထန်းတပင်မြို့နယ်၊ စန္ဒယော်ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၃၃၁/ဂ) ထိပ်ပြောင်ကွင်း၊ ဦးပိုင်အမှတ်(၆)၊ ဦးပိုင်အမှတ်(၇/င)၊ ဦးပိုင်အမှတ်(၃/ည)၊ ဦးပိုင်အမှတ်(၄/ဃ)၊ ဦးပိုင်အမှတ်(၅/ခ)၊ ကွင်းအမှတ်(၃၃၁/ဘီ)၊ ထိပ်ပြောင်ကွင်း၊ ဦးပိုင်အမှတ်(၆/ခ)၊ ဦးပိုင်အမှတ် (၉/က)ရှိ မြေ(၃၈.၉၉) ဧက၊ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ စဉ့်ကိုင် မြို့နယ်၊ ဆည်ရွာကျေးရွာ၊ ကွင်းအမှတ်(၁၂)၊ တမာကုန်း၊ ဦးပိုင်အမှတ် (၁၉၊၂၀၊ ၂၁၊ ၂၂၊၁၈၊ ၄၅၊ ၄၆၊၄၇) ရှိ မြေ(၂၄.၁၆) ဧကနှင့် မကွေးတိုင်းဒေသကြီး၊ မင်းဘူးခရိုင်၊ ပွင့်ဖြူမြို့နယ်၊ ဥယျာဉ်ကျစ်ကျေးရွာအုပ်စု ၊ ကွင်းအမှတ်(၇၀၄) တောကျောင်းကွင်း၊ ဦးပိုင်အမှတ်(၅၆/၆၁)ရှိ မြေ(၂၅.၀၀)ဧက စုစုပေါင်း မြေအကျယ်အဝန်း (၈၈.၁၅)ဧက (၃၅၆,၇၃၀,၇၁ စတုရန်းမီတာ)ကို ငှားရမ်းကာ မျိုးစေ့စိုက်ပျိုးထုတ်လုပ်ခြင်း အဆင့်ဆင့် နှင့် ရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီး မြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ ပူးတွဲပေးပို့လာသည့် အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံလိုသူ၏ ဆောင်ရွက်ရန်အဆိုပြုချက်၊ စီမံကိန်းတည်ဆောက်မည့် ကာလမှာ(၁)နှစ်ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှုကာလမှာ (၅)နှစ်ဖြစ်ပါကြောင်း၊ မီးဘေးကြိုတင်ကာကွယ်ရေးအစီအစဉ်များ၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းများ သက်သာ ချောင်ချိရေးအစီအစဉ်များ ၊ ဝန်ထမ်းများ၏ ကျန်းမာရေး စောင့်ရှောက်မှုဆိုင်ရာ အစီအစဉ်များ နှင့် အကျိုးပြု ဝန်ဆောင်မှုလုပ်ငန်းမှ ရရှိသောမြတ် အသားတင်အမြတ်ငွေ (၂)% အား Corporate Social Responsibility (CSR) လုပ်ငန်းများတွင် သုံးစွဲသွားမည်

ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။ ထို့အပြင် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ စွန့်ပစ်ပစ္စည်းများ၊ စွန့်ပစ်အရည်များအား ထိန်းသိမ်းစွန့်ပစ်မည့် အစီအစဉ်များ ဆောင်ရွက်သွားမည်ဖြစ်ကြောင်းနှင့် ကနဦး ပတ်ဝန်းကျင်ဆိုင်ရာ လေ့လာခြင်းများ လုပ်ဆောင်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ အဆိုပါ မျိုးစေ့ စိုက်ပျိုးထုတ်လုပ်ခြင်း အဆင့်ဆင့် နှင့် ရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ရာတွင် စွန့်ပစ်ပစ္စည်းများ၊ စွန့်ပစ်အရည်များနှင့် စိုက်ပျိုးရေးလုပ်ငန်းများတွင် သုံးစွဲသည့် ပိုးသတ်ဆေးများကြောင့် ရေထု၊ လေထု၊ မြေထုညစ်ညမ်းမှုများ ဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ ထိုင်ဝမ် Shall- Long Co., Ltd. မှ (၈၀%) နှင့် မြန်မာနိုင်ငံသား ဦးစိန်ဦး (ခ) ဦးလောရိန်ကြစ်မှ (၂၀%) အစုရှယ်ယာများ ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Known-You Seed Myanmar Company Limited တည်ထောင်ကာ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး ၊ မြောက်ပိုင်းခရိုင် ၊ ထန်းတပင်မြို့နယ် ၊ စန္ဒယော်ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၃၃၁/ဂ) ထိပ်ပြောင်ကွင်း၊ ဦးပိုင်အမှတ်(၆) ၊ ဦးပိုင်အမှတ်(၇/င)၊ ဦးပိုင်အမှတ်(၇/ည) ၊ ဦးပိုင်အမှတ်(၄/ဃ) ၊ ဦးပိုင်အမှတ်(၅/ခ) ၊ ကွင်းအမှတ် (၃၃၁/ဘီ)၊ ထိပ်ပြောင်ကွင်း၊ ဦးပိုင်အမှတ် (၆/ခ) ၊ ဦးပိုင်အမှတ် (၉/က)ရှိ မြေ(၃၈.၉၉) ဧက ၊ မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ စဉ့်ကိုင်မြို့နယ်၊ ဆည်ရွာကျေးရွာ၊ ကွင်းအမှတ်(၁၂)၊ တမာကုန်း၊ ဦးပိုင်အမှတ် (၁၉၊၂၀၊ ၂၁၊ ၂၂၊၁၈၊ ၄၅၊ ၄၆၊၄၇) ရှိ မြေ(၂၄.၁၆) ဧကနှင့် မကွေးတိုင်းဒေသကြီး၊ မင်းဘူးခရိုင်၊ ပွင့်ဖြူမြို့နယ်၊ ဥယျာဉ်ကျစ်ကျေးရွာအုပ်စု ၊ ကွင်းအမှတ်(၇၀၄) တောကျောင်းကွင်း၊ ဦးပိုင်အမှတ် (၅၆/၆၁)ရှိ မြေ(၂၅.၀၀)ဧက စုစုပေါင်း မြေအကျယ်အဝန်း (၈၈.၁၅)ဧက (၃၅၆,၇၃၀,၇၁ စတုရန်းမီတာ)ကို ငှားရမ်းကာ မျိုးစေ့စိုက်ပျိုးထုတ်လုပ်ခြင်း အဆင့်ဆင့် နှင့် ရောင်းချခြင်း လုပ်ငန်းအား နိုင်ငံခြားရင်းနှီး မြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့် ပတ်သက်၍ အောက်ပါအတိုင်း ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပါဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းတစ်ခုချင်းစီအလိုက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာ ဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းလမ်းနှင့်အစီအမံများ ထည့်သွင်းဆောင်ရွက်ရန်၊

(ခ) အဆိုပါဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ခြင်း နှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်ပျက်စီးမှုများ မဖြစ်ပေါ်စေရေး သို့မဟုတ် ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် ၊ စွန့်ပစ်ပစ္စည်း / စွန့်ပစ်အရည်

စီမံ ခန့်ခွဲမှုအစီအစဉ်များ၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးသည့်စနစ်၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက်သုံးစွဲမည့် ရန်ပုံငွေနှင့် ဝန်ဆောင်မှုလုပ်ငန်းအစီအမံများ ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် ( Environmental Management Plan–EMP) ကို လုပ်ငန်းဆောင်ရွက် လုပ်ကိုင်မည့် ဒေသတစ်ခုချင်းစီအလိုက် ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဂ) လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု ( Corporate Social Responsibility-CSR ) အရ ဒေသခံပြည်သူများ၏ စီးပွားရေးနှင့်လူမှုရေး လျင်မြန်စွာဖွံ့ဖြိုးတိုးတက်စေမည့် အစီအစဉ်များကို ဆောင်ရွက်ရမည့်အပြင် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးလုပ်ငန်းများကိုပါ ထည့်သွင်းဆောင်ရွက်ရန်၊

(ဃ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့ နှင့် ဒေသခံပြည်သူလူထုတို့၏ ဆန္ဒနှင့် သဘောထားမှတ်ချက်ရယူဆောင်ရွက်ရန်၊

(င) သတ်မှတ်ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ ၊ နည်းဥပဒေ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( မျိုးညွန့် ၊ ရုံး အ ဖွဲ့ မှူး)

မိတ္တူ -ညွှန်ကြားရေးမှူးချုပ် ၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ် ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ် ၊ သစ်တောဦးစီးဌာန

MIC 95 19/1

နောက်ဆက်တွဲ(ဃ)



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊၁၁/Known-You Seed( ၂၆ /၂၀၁၆)
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ၊ ဇန်နဝါရီလ ၁၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၄.၁၁.၂၀၁၅) ရက်စွဲပါစာအမှတ်၊ ရက-၂/န-၁၁၅/၂၀၁၅ (၈၃၆)

(၂) လယ်ယာစိုက်ပျိုးရေး နှင့် ဆည်မြောင်းဝန်ကြီးဌာန၊ ဝန်ကြီးရုံး၏ (၂၁.၁၂.၂၀၁၅)ရက်စွဲပါစာအမှတ်၊၁၁/Known-You Seed(၆၄၈/၂၀၁၅)

၁။ ထိုင်ဝမ် Shall-Long Co., Ltd.မှ (၈၀%) နှင့် မြန်မာနိုင်ငံသား ဦးစိန်ဦး(ခ) ဦးလောရိန်ကြစ်မှ (၂၀%) အစုရှယ်ယာများ ထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Known-You Seed Myanmar Company Limited တည်ထောင်၍ အဆိုပြုမြေနေရာများအားငှားရမ်းကာ မျိုးစေ့စိုက်ပျိုးထုတ်လုပ်ခြင်း အဆင့်ဆင့်နှင့် ရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြခဲ့ခြင်းနှင့်ပတ်သက်၍ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား ပြန်ကြားပေးပါရန် ရည်ညွှန်းပါ(၁) ပါစာဖြင့် မေတ္တာရပ်ခံလာပါသဖြင့် ရည်ညွှန်း(၂) ပါစာဖြင့် ပြန်ကြားခဲ့ပါသည်။

၂။ အထက်ပါကိစ္စနှင့်စပ်လျဉ်း၍ မျိုးစေ့ကဏ္ဍ ဖွံ့ဖြိုးတိုးတက်ရေး အထောက်အကူများစွာ ရရှိနိုင်မည်ဖြစ်ပါသဖြင့် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနအနေဖြင့် ထောက်ခံပါကြောင်း ပြန်ကြားအပ်ပါသည်။

ဒုတိယဝန်ကြီး(ကိုယ်စား)
(သက်နိုင်ဦး၊ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူ။

- ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

- ညွှန်ကြားရေးမှူးချုပ်၊ စီမံကိန်းဦးစီးဌာန
- ညွှန်ကြားရေးမှူးချုပ်၊ စိုက်ပျိုးရေးဦးစီးဌာန
- ညွှန်ကြားရေးမှူးချုပ်၊လယ်ယာမြေစီမံခန့်ခွဲရေးနှင့်စာရင်းအင်းဦးစီးဌာန
- ရုံးလက်ခံ
- မျှောစာတွဲ

**KNOWN - YOU SEED MYANMAR CO., LTD**

Office Adress : No.1/B(104-104 A/B), Yadanar Condominium, Pyay Road, 9-Miles, Mayangone Township, Yangon Region, Myanmar. Ph : 01 666110, 01 651835

သို့/-

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရန်ကုန်တိုင်းဒေသကြီး။

ရက်စွဲ ။ ။ ၂၀၁၅ ခုနှစ်၊ အောက်တိုဘာလ (၃၀)ရက်။

အကြောင်းအရာ ။ ။ **တိုင်းဒေသကြီးအစိုးရအဖွဲ့များ၏ သဘောထားမှတ်ချက်များအရ ပြင်ဆင်ပြီး၍ ပြန်လည်ပေးပို့တင်ပြခြင်း။**

၁။ ကျွန်တော်များ " **KNOWN - YOU SEED MYANMAR CO., LTD** " သည် ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ ၉-မိုင်၊ ပြည်လမ်း၊ ရတနာကွန်ဒို၊ အမှတ် (၁-ဘီ/၁၀၄-၁၀၄အေ/ဘီ) တွင် ရုံးခန်းဖွင့်လှစ်၍ မျိုးစေ့စိုက်ပျိုးထုတ်လုပ်ရန်အတွက် မျိုးစေ့တင်သွင်းခြင်း၊ စိုက်ပျိုးထုတ်လုပ်ခြင်းနှင့် ထုတ်လုပ်ပြီး မျိုးစေ့များကို ပြည်ပသို့တင်ပို့ခြင်း လုပ်ငန်းအဆင့်ဆင့်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ဆောင်ရွက်ရန် အဆိုပြုတင်ပြထားပါသည်။

၂။ ကျွန်တော်များ ကုမ္ပဏီမှ အဆိုပြုတင်ပြထားသည့် မြေကွက်နေရာများမှာ

(၁) ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ပိုင်းခရိုင်၊ ထန်းတပင်မြို့နယ်၊ စန္ဒယော်ကျေးရွာအုပ်စု
မြေဧရိယာ (၃၈. ၉၉) ဧက

(၂) မန္တလေးတိုင်းဒေသကြီး၊ ကျောက်ဆည်ခရိုင်၊ စဉ့်ကိုင်မြို့နယ်၊ ကွင်းအမှတ်(၁၂)၊ တမာကုန်းကျေးရွာ
မြေဧရိယာ (၂၄. ၁၆) ဧက

(၃) မကွေးတိုင်းဒေသကြီး၊ မင်းဘူးခရိုင်၊ ပွင့်ဖြူမြို့နယ်၊ ဥယျာဉ်ကျစ်ကျေးရွာအုပ်စု တို့ဖြစ်ပါသည်။
မြေဧရိယာ (၁၂. ၇၄) ဧက

၃။ ယင်းသို့ တင်ပြထားသည့်မြေကွက်များထဲမှ ယခုအခါတွင် ကျွန်တော်များကုမ္ပဏီသည် မန္တလေးတိုင်းဒေသကြီးနှင့် မကွေးတိုင်းဒေသကြီးတွင်သာ လုပ်ကိုင်ဆောင်ရွက်မည်ဖြစ်ပါသည်။ မန္တလေးတိုင်းဒေသကြီးတွင် မြေဧရိယာ(၂၄. ၁၆)ဧကပေါ်တွင် လုပ်ကိုင်မည်ဖြစ်ပြီး၊ မကွေးတိုင်း ဒေသကြီးတွင် မကွေးတိုင်း ဒေသကြီးအစိုးရအဖွဲ့၏ သဘောထားမှတ်ချက်အရ အဆိုပြုတင်ပြထားသော မြေဧရိယာ

KNOWN - YOU SEED MYANMAR CO., LTD
Office Adress : No.1/B(104-104 A/B), Yadanar Condominium, Pyay Road, 9-Miles, Mayangone Township,
Yangon Region, Myanmar. Ph : 01 666110, 01 651835

(၁၂.၇၄) တွင် ယာမြေဧရိယာ (၇.၆၇) ကေကိုသာ ခွင့်ပြုသဖြင့် အဆိုပါမြေဧရိယာ ပေါ်တွင်သာ လုပ်ကိုင်ဆောင်ရွက်မည် ဖြစ်ပါသည်။

၄။ သို့ပါသောကြောင့် ကျွန်တော်များကုမ္ပဏီမှလိုအပ်သော ပြင်ဆင်မှုများ ပြုလုပ်ပြီးဖြစ်ပါ၍ အဆိုပြုလွှာအား ပြန်လည်ပေးပို့တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

U SEIN OO @ U LAW YAIN KYIT
Promoter
KNOWN-YOU SEED MYANMAR CO., LTD

14.10.15

# PROPOSAL OF THE PROMOTER TO MAKE

# FOREIGN INVESTMENT IN

# REPUBLIC OF THE UNION OF MYANMAR

SUBMITTED BY

## KNOWN - YOU SEED MYANMAR COMPANY LIMITED

( Sowing, Production and Sales of Seeds)

(၃) လက်ရှိပိုင်ဆိုင်သူ ..........

(ကက) အမည်/ကုမ္ပဏီအမည်/ဌာန ..........

(ခခ) နိုင်ငံသားစိစစ်ရေးကတ်အမှတ် ..........

(၁) ဦးဝင်းအောင် (၁၂/တမန (နိုင်) ၀၄၄၀၁၉)

(၂) ဦးဇာနည်အောင် (၈/ပဖန (နိုင်) ၁၀၅၀၉၈)

(ဂဂ) နေရပ်လိပ်စာ ..........

(၁) အမှတ်(၁၇)၊ ရွှေဥဒေါင်းလမ်း၊ တာမွေမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(၂) ကန်ဆွယ်ကျေးရွာ၊ ပွင့်ဖြူမြို့နယ်၊ မကွေးတိုင်းဒေသကြီး။

(၄) မြေအမျိုးအစား .......... လယ်ယာမြေ

(၅) မြေငှားဂရန် ခွင့်ပြုကာလ .......... -

(၆) ငှားရမ်းမည့်ကာလ .......... နှစ် (၅) .......... မှ .......... ထိ ( )နှစ်

(၇) ငှားရမ်းခနှုန်းထား .......... US$ 5,570.74 per annum for first (5) years

(ကက) မြေ .......... (၃၁. ၈၃) ဧက၊ (၁၂၈,၈၁၁. ၅၅ )စတုရန်းမီတာ

(ခခ) အဆောက်အအုံ .......... Please See Exhibit ( 3 )

(၈) ရပ်ကွက် .......... -

(၉) မြို့နယ် .......... -

(၁၀) ပြည်နယ်/တိုင်းဒေသကြီး .......... မန္တလေးတိုင်းဒေသကြီး နှင့် မကွေးတိုင်းဒေသကြီး။

(၁၁) ငှားရမ်းမည့်ပုဂ္ဂိုလ် .......... MR. CHEN, LUNG - MU

(ကက) အမည်/ကုမ္ပဏီအမည်/ဌာန .......... KNOWN - YOU SEED MYANMAR CO., LTD

(ခခ) အဖအမည် .......... -

(ဂဂ) နိုင်ငံသား .......... Taiwanese

(ဃဃ) နိုင်ငံကူးလက်မှတ်အမှတ် .......... 307870471

(ငင) နေရပ်လိပ်စာ .......... No.15, Ln.2,Wenqian Rd., Niaosong Dist.,Kaohsiung City 833, Taiwan (R.O.C).

**မှတ်ချက်** အထက်အပိုဒ် ၉(ခ)နှင့်စပ်လျဉ်း၍ အောက်ပါအချက်များကို ပူးတွဲတင်ပြရပါမည်-

(၁) မြေပိုင်ဆိုင်မှု/မြေဂရန်အထောက်အထားနှင့် မြေပုံ ပူးတွဲ တင်ပြရန်

(၂) မြေငှားစာချုပ် (မူကြမ်း) တင်ပြရန် နှင့် နိုင်ငံတော်နှင့် ပတ်သက်လျှင် ပြည်ထောင်စု ရှေ့နေ ချုပ်ရုံး၏ သဘောထားမှတ်ချက်တင်ပြရန်

(ဂ) ဆောက်လုပ်မည့်အဆောက်အအုံလိုအပ်ချက်

(၁) အဆောက်အဦ အမျိုးအစား/အရေအတွက် ..........

(၂) အကျယ်အဝန်း ..........

(ဃ) ထုတ်လုပ်မည့် ကုန်ပစ္စည်း/ဝန်ဆောင်မှု ..........

(၁) ထုတ်လုပ်မည့် ပစ္စည်း .......... မျိုးစေ့စိုက်ပျိုးထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း

(၂) နှစ်စဉ်ထုတ်လုပ်မည့် ခန့်မှန်းအရေအတွက် ..........

(၃) ဝန်ဆောင်မှုအမျိုးအစား ..........

KNOWN - YOU SEED MYANMAR CO., LTD
Office Adress : No.1/B(104-104 A/B), Yadanar Condominium, Pyay Road, 9-Miles, Mayangone Township, Yangon Region, Myanmar. Ph : 01 666110, 01 651835

To

The Chairman
Myanmar Investment Commission
Republic of the Union of Myanmar
Yangon Region

Date : : 30 , October' 2015.

Subject : : **Submission of the proposal to Myanmar Investment Commission**

We have a great pleasure to inform you that **KNOWN - YOU SEED MYANMAR CO., LTD** will be incorporated under the Republic of the Union of Myanmar Foreign Investment Law in accordance with the Myanmar Companies Act. We would like to apply MIC Permit for **KNOWN - YOU SEED MYANMAR CO., LTD** which will be rented with office building in No.1/B(104-104 A/B), Yadanar Condominium, Pyay Road, 9-Miles, Mayangone Township, Yangon Region. Republic of the Union of Myanmar for Sowing, Production and Sales of Seeds.

Therefore, we hereby submit ( 12 ) Copies of proposals to Myanmar Investment Commission for Favour of issue of Permit.

Yours Faithfully,

**U SEIN OO @ U LAW YAIN KYIT**
**Promoter**
**KNOWN - YOU SEED MYANMAR CO., LTD**

KNOWN - YOU SEED MYANMAR CO., LTD
Office Adress : No.1/B(104-104 A/B), Yadanar Condominium, Pyay Road, 9-Miles, Mayangone Township,
Yangon Region, Myanmar. Ph : 01 666110, 01 651835

To

The Chairman
Myanmar Investment Commission
Republic of the Union of Myanmar
Yangon Region

Date : : 30 , October' 2015.

Subject : : **Application for issue of Permit for Foreign Investment in the Republic of the Union of Myanmar.**

Dear Sir,

1. We have the pleasure and honor to inform you that a Foreign Company of **80%** Foreign Investment by the name of **KNOWN - YOU SEED MYANMAR CO., LTD** desires to obtain an "Investment Permit" under Republic of the Union of Myanmar Companies Act and to have share holdings of **80%** contributed by **SHALL - LONG CO., LTD.**

2. In accordance with Republic of the Union of Myanmar Foreign Investment Law, **KNOWN - YOU SEED MYANMAR CO., LTD** is now applying for issue of Permit under Section 13(b) of Republic of the Union of Myanmar Foreign Investment Law.

3. At the same time, in accordance with the following basic principles of Foreign Investment Law, **KNOWN - YOU SEED MYANMAR CO., LTD** put up this application for tax exemption.
   (a) Promotion an expansion of value added exports.
   (b) Acquisition of High Technology.
   (c) Opening up of more employment opportunities.
   (d) Regional Development.

4. The **KNOWN - YOU SEED MYANMAR CO., LTD** in its Memorandum of Association

contains and objective the establish of Sowing, Production and Sales of Seeds and with the objectives in view, we hereby present the proposal to operate the business of Sowing, Production and Sales of Seeds in No.1/B(104-104 A/B), Yadanar Condominium, Pyay Road, 9-Miles, Mayangone Township, Yangon Region. Yangon Region, Republic of the Union of Myanmar. We have made a detailed account of our on realistic and factual forecasts and studies.

5. For the purpose of above application, we submit herewith the Proposal of the Promoter to make Foreign Investment in the Republic of the Union of Myanmar, together with relevant supporting documents which are required for issue of Permit from the Myanmar Investment Commission (MIC) for the MIC's consideration.
   (a) Proposal of the promoter to make Foreign Investment in Republic of the Union of Myanmar.
   (b) Lease Agreement (draft).
   (c) Investment Proposal & Attachments.
   (d) References for Business and Financial Standing.
   (e) Memorandum of Association and Articles of Association (draft).

6. We trust the above would meet your requirements and we hope that the Myanmar Investment Commission will give favorable consideration to our application as well as grant us the Investment Permit. We shall be most grateful if the Myanmar Investment Commission could kindly grant us the following exemptions or relief from taxation in allowed as per Section 27 of Republic of the Union of Myanmar Foreign Investment Law.
   (a) Exemption from income tax for a period extending to 5 consecutive years, inclusive of the year of commencement of production of goods services.
   (b) Exemption or relief from income tax on profit of the business if they are maintained in a reserve fund and re-investment therein within one year after the reserve is made.
   (c) Right to accelerate depreciation in respect of machinery, equipment, build

ing or other Capital Assets used in the business, at the rate fixed by the Commission to the extend of the original value for the purpose of income tax assessment.

(d) Relief from income tax up to 50 percent on the profit accrued from the said export.

(e) Right to pay income tax on the income of the foreigners at the rates applicable to the citizens residing within the union.

(f ) Right to deduct expenses from the assessable income, such expenses incrred in respect of research and development relating to the business which are actually required and are carried out within the Union.

(g) Right to carry forward and set-off up to 3 consecutive years from the year the loss is sustained in respect of such loss sustained within 2 years immediately following the enjoyment of exemption or relief from income tax as contained in sub-section (a), for each business.

(h) Exemption or relief from customs duty or other internal taxes or both on machinery, equipment, instrument, machinery components, spare parts and materials used in the business, which are imported as they are actually required for use during the period of construction of business.

(i) Exemption of relief from customs duty or other internal tax or both on raw materials imported for the first (3) years after the completion of construction of business.

(j). If the volume of investment is increased with the approval of the Commission and the original investment business is expanded during the permitted permitted period, exemption or relief from custom duty or other internal taxes or both on machinery, equiment, instruments, machinery components, spare parts and materials used in the business which are imported as they are actually required for use in the business expanded as such.

7. We shall abide by the Laws, Rules, Notifications and Regulations of Republic of the Union of Myanmar with due regard for the development of Republic of the Union of Myanmar.

8. We hope that we shall accomplish the project as early as possible within the target time schedule and hereby guarantee our sincerity, competence and sound financial standing to bring success to the industry in the Republic of the Union of Myanmar.

9. We are looking forward to have the most favourable consideration to this matter by the commission and be granted the exemptions along with the Permit at its earliest convenience.

With Best Regards,

Yours Sincerely,

**U SEIN OO @ U LAW YAIN KYIT**
**Promoter**
**KNOWN - YOU SEED MYANMAR CO., LTD**

# ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်အတွင်း နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ပြုလုပ်ရန် ကမကထ ပြုသူ၏ ဆောင်ရွက်ရန် အဆိုပြုချက်

# PROPOSAL OF THE PROMOTER TO MAKE FROREIGN INVESTMENT IN THE REPUBLIC OF THE UNION OF MYANMAR

**AYA Bank**
ဧရာဝတီဘဏ်
Your Trusted Partner




TO 0036-2-24-01-000258-2
LAW YAIN KYIT@ SEIN OO/SANDAR AYE 12/BATAHTA(N)028676 # 09/MAYATA(N)063949

Dear Sir/Madam,

We hereby certify that the balance standing at the Credit of the account of LAW YAIN KYIT@ SEIN OO/SANDAR AYE 12/BATAHTA(N)028676 # 09/MAYATA(N)063949 A/C no. 0036-2-24-01-000258-2 with the AYEYARWADY BANK at the close of business on the 19/01/2016 was K : 132,493,659.22 ( One Hundred Thirty-Two Million Four Hundred Ninety-Three Thousand Six Hundred Fifty-Nine Kyat And Twenty-Two Pya ).

Yours faithfully,

(Manager)
ACCOUNTS DEPARTMENT

No.416, Corner of Maharbandoola Road
& Maharbandoola Garden Street,
Kyauktada Township,
Yangon, Myanmar.

T +951 370500
F +951 370501
E info@ayabank.com.mm
www.ayabank.com
www.facebook.com/ayabank







မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန်ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ

# နိုး - ယူ စိ မြန်မာ ကုမ္ပဏီ လီမိတက်

၏

**သင်းဖွဲ့မှတ်တမ်း**

နှင့်

**သင်းဖွဲ့စည်းမျဉ်းများ**



THE MYANMAR COMPANIES ACT
PRIVATE COMPANY LIMITED BY SHARES

**Memorandum of Association**
*AND*
**Articles of Association**

*OF*

**KNOWN - YOU SEED MYANMAR COMPANY LIMITED**

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန်ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ

# နုံး – ယူ စို မြန်မာ ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့မှတ်တမ်း



၁။ **ကုမ္ပဏီ၏** အမည်သည် " **နုံး – ယူ စို မြန်မာ ကုမ္ပဏီ လီမိတက်** " ဖြစ်ပါသည်။

၂။ **ကုမ္ပဏီ၏** မှတ်ပုံတင် အလုပ်တိုက်သည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ **ကုမ္ပဏီ** တည်ထောင်ရခြင်း၏ **ရည်ရွယ်ချက်များမှာ တစ်ဖက်စာမျက်နှာပါ** အတိုင်း ဖြစ်ပါသည်။

၄။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၅။ ကုမ္ပဏီ၏ သတ်မှတ် မ,တည်ငွေရင်းသည် အမေရိကန်ဒေါ်လာ - ၂,ဝဝဝ,ဝဝဝ ( အမေရိကန်ဒေါ်လာ နှစ်သန်းတိတိ ) ဖြစ်၍ အမေရိကန်ဒေါ်လာ - ၁ ( အမေရိကန်ဒေါ်လာတစ်ဒေါ်လာတိတိ )တန် အစုရှယ်ယာပေါင်း ( ၂,ဝဝဝ,ဝဝဝ ) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့်လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေ သင်းလုံးကျွတ်အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

၆။ **ကုမ္ပဏီတည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ -**
နိုင်ငံတော်အစိုးရက ခွင့်ပြုထားသော အောက်ဖော်ပြပါကုန်ပစ္စည်းများကို ထုတ်လုပ်ခြင်း၊ စိုက်ပျိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ပြုပြင်ခြင်း စသည့်လုပ်ငန်းများကို ဆောင်ရွက်ရန်အတွက် မိမိတစ်ဦးတည်းဖြစ်စေ၊ မည်သည့် ပြည်တွင်း၊ ပြည်ပ ပုဂ္ဂိုလ်များနှင့်ဖက်စပ်၍ဖြစ်စေ လုပ်ကိုင်ရန်။

**ကုမ္ပဏီသည် မျိုးစေ့ထုတ်လုပ်ရန်အတွက် မျိုးစေ့စိုက်ပျိုးထုတ်လုပ်ခြင်းလုပ်ငန်းအဆင့်ဆင့်နှင့် စိုက်ပျိုးရေးလုပ်ငန်းများဆောင်ရွက်ရန် ရည်ရွယ်ပါသည်။**

၇။ အထက်ဖော်ပြပါ လုပ်ငန်းများတွင် လိုအပ်သည့် စက်ကိရိယာများ၊ အပိုပစ္စည်းများ၊ ကုန်ကြမ်းပစ္စည်းများ နှင့်အခြားသောပစ္စည်းများကို ပြည်ပမှတင်သွင်းရန်နှင့် ထွက်ရှိလာသော ကုန်ချောများ၊ တစ်စိတ် တစ်ဒေသကုန်ချောများကို ပြည်တွင်းပြည်ပတွင် လက်လီလက်ကားရောင်းချရန်။

၈။ ကုမ္ပဏီမှ သင့်လျော်လျှောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ်၊ သို့မဟုတ်၊ ငွေကြေးအဖွဲ့အစည်း ထံမှမဆို ငွေချေးယူရန်။

**ခြွင်းချက်** ။ ။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း၌ဖြစ်စေ၊ အခြားမည်သည့်အရပ်ဒေသ၌ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့်လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း၌အချိန်ကာလအားလျော်စွာ တည်မြဲနေသည့် တရားဥပဒေပြဋ္ဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း သို့မဟုတ် ခွင့်ပြုထားရှိခြင်း ရှိမှသာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ခြွင်းချက်ထားရှိပါသည်။

အောက်တွင်အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ကိုယ်စီကိုယ်ငှသည်ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန်လိုလားသည့်အလျောက်ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲပြထားသော အစုရှယ်ယာများကိုကုမ္ပဏီ၏မတည်ရင်းနှီးငွေတွင်ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| က - | **SHALL - LONG CO., LTD.**<br>8F-3, No.47, Chung Hwa 4th Road, Kaohsiung, Taiwan. | Incorporated in **SAMOA** Registration No. **34790** | ၁၅၀၀၀၀ | |
| | **ကိုယ်စားပြုဒါရိုက်တာများ -** | | | |
| | (၁) **MR. CHEN, LUNG - MU**<br>No.15, Ln.2, Wenqian Rd., Niaosong Dist., Kaohsiung City 833, Taiwan (R.O.C.).<br>( ကုန်သည် ) | **Taiwanese** P.P.No. 307870471 | | [signature] |
| | (၂) **MR. KUO, KUN - SHIH**<br>No.20, Aly.2, Ln. 58, Renguang Rd., Renwu Dist., Kaohsiung City 814, Taiwan (R.O.C.).<br>( ကုန်သည် ) | **Taiwanese** P.P.No. 212901730 | | [signature] |

ရန်ကုန် ။ ။ နေ့စွဲ၊ ၂၀၁၄ ခုနှစ်၊ နိုဝင်ဘာ လ၊ ( )ရက်။

**အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်တို့၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။**

[signature]

အောက်တွင်အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ကိုယ်စီကိုယ်ငှသည်ဉာဏ်သင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန်လိုလားသည့်အလျောက်ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲပြထားသော အစုရှယ်ယာများကိုကုမ္ပဏီ၏မတည်ရင်းနှီးငွေတွင်ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| | (၃) **MR. CHO, SHENG - CHUNG** 20F., No.116-1, Mingcheng 2nd Rd., Sanmin Dist., Kaohsiung City 807, Taiwan (R.O.C.). ( ကုန်သည် ) | **Taiwanese** P.P.No. 301056990 | | CHO, Sheng-chung |
| | (၄) **MR. LI, WEN - TI** No.73-1, Zhongshan Rd., Fengshan Dist., Kaohsiung City 830, Taiwan (R.O.C.). ( ကုန်သည် ) | **Taiwanese** P.P.No. 302432863 | | Li Wen-ti |
| ခ- | **ဦးစိန်ဦး (ခ) လောရိန်ကြစ်** အမှတ်-(၉၂/၉၄)၊ တတိယထပ်၊ ဘိုကလေးဈေးလမ်း၊ (၈)-ရပ်ကွက်၊ ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ ( ကုန်သည် ) | **မြန်မာ** ၁၂/ဗတထ (နိုင်) ၀၂၈၆၇၆ | ၃၃၅၀၀ | [signature] |

ရန်ကုန် ။ ။ နေ့စွဲ၊ ၂၀၁၄ ခုနှစ်၊ **နိုဝင်ဘာ** လ၊ ( )ရက်။

**အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်တို့၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။**

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန်ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ

# နုံး – ယူ စို မြန်မာ ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့စည်းမျဉ်းများ



၁။ ဤ သင်းဖွဲ့စည်းမျဉ်း နှင့် လိုက်လျောညီထွေ မဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ နောက်ဆက်တွဲ ပထမဇယားပုံစံ'က'ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၁၇(၂)တွင် ဖော်ပြပါရှိသည့် မလိုက်နာ မနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

### အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

၂။ ဤကုမ္ပဏီသည် အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍ အောက်ပါ သတ်မှတ်ချက်များသည် အကျိုးသက်ရောက်စေရမည်။

(က) ဤ ကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများ မှအပ၊ ဤကုမ္ပဏီ၏ အစုရှင် အရေအတွက်ကို ငါးဆယ်အထိသာ ကန့်သတ်ထားသည်။

(ခ) ဤ ကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်) တစ်ခုခု အတွက် ငွေထည့်ဝင်ရန် အများပြည်သူတို့အား ကမ်းလှမ်းခြင်း မပြုလုပ်ရန် တားမြစ်ထားသည်။

### မ,တည်ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ် မ,တည်ငွေရင်းသည် အမေရိကန်ဒေါ်လာ - ၂,၀၀၀,၀၀၀ ( အမေရိကန်ဒေါ်လာ နှစ်သန်းတိတိ ) ဖြစ်၍ အမေရိကန်ဒေါ်လာ - ၁ ( အမေရိကန်ဒေါ်လာတစ်ဒေါ်လာတိတိ )တန် အစုရှယ်ယာပေါင်း ( ၂,၀၀၀,၀၀၀ ) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့်လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေ သင်းလုံးကျွတ်အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာ ရှိစေရမည်။

၄။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက် များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှုအောက်တွင် ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် အခြေအနေ တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်းတို့ကို ဆောင်ရွက်နိုင်သည်။

၅။ အစုရှယ်ယာလက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် အခြားပုဂ္ဂိုလ်များက လက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏တံဆိပ်ရိုက်နှိပ်ထုတ်ပေးရမည်။ အစုရှယ်ယာလက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း သို့မဟုတ် ပျက်စီးခြင်း ဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကိုသော်လည်းကောင်း၊ ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော အခြားသက်သေခံ အထောက် အထား တစ်စုံတစ်ရာကို တင်ပြစေ၍သော်လည်းကောင်း ထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင် ကိုယ်စားလှယ်ကို ဒါရိုက်တာများက အသိအမှတ်ပြုပေးရမည် ဖြစ်သည်။

၆။ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသော ငွေများကို အခါအားလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်းအတွက် ဒါရိုက်တာများက သတ်မှတ်သည့် ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်အချိန်နှင့်နေရာတွင် ပေးသွင်းစေရန် တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက် အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

**ဒါရိုက်တာများ**

၇။ သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် ( ၂ )ဦးထက်မနည်း၊ ( ၉ )ဦးထက် မများစေရ။

**ပထမဒါရိုက်တာများသည် -**

**(၁) MR. CHEN, LUNG - MU**

**(၂) MR. KUO, KUN - SHIH**

**(၃) MR. CHO, SHENG - CHUNG**

**(၄) MR. LI, WEN - TI** နှင့်

**(၅) ဦးစိန်ဦး (ခ) လောရိန်ကြစ်** တို့ ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှ တစ်ဦးကို မန်နေဂျင်းဒါရိုက်တာ အဖြစ် အချိန်အခါအလိုက် သင့်လျော်သော သတ်မှတ်ချက်များ၊ ဥာဏ်ပူဇော်ခများဖြင့် ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများ အားလုံးကို ၎င်းက အသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦးဖြစ်မြောက်ရန် လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏ အစုရှယ်ယာ အနည်းဆုံး ( - )စုကို ပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပုဒ်မ ၈၅ ပါ ပြဋ္ဌာန်းချက်များကို လိုက်နာရန် တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှမပေးဘဲ ဒါရိုက်တာအဖွဲ့သည် ၎င်းတို့၏ ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

**ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ**

၁၁။ ဒါရိုက်တာများသည် ၎င်းတို့သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံဆွေးနွေးခြင်း၊ အစည်းအဝေးရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံးဒါရိုက်တာဦးရေသတ်မှတ်ခြင်းတို့ကို ဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦး တက်ရောက်လျှင် အစည်းအဝေးထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့်ပြဿနာမဆို ပေါ်ပေါက်ပါက မန်နေဂျင်းဒါရိုက်တာ၏ အဆုံးအဖြတ်သည် အတည် ဖြစ်ရမည်။ မည်သည့်ကိစ္စများကိုမဆို မဲခွဲ ဆုံးဖြတ်ရာတွင် မဲအရေအတွက် တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏ အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေး ခေါ်နိုင်သည်။

၁၃။ ဒါရိုက်တာအားလုံးက လက်မှတ်ရေးထိုးထားသော ရေးသားထားသည့်ဆုံးဖြတ်ချက်တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံး အတွက် အကျိုးသက်ရောက်စေရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့်တာဝန်များ

၁၄။ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲဇယားပုံစံ (က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်ထားသော အထွေထွေ အာဏာများကို မထိခိုက်စေဘဲဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများ ရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေညာသည်။ အာဏာဆိုသည်မှာ -

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆသော တန်ဖိုးနှင့်စည်းကမ်းများ၊ အခြေအနေများ သတ်မှတ်၍ ကုမ္ပဏီကရယူရန်အာဏာရှိသည့် မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆိုဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့်ရယူပိုင်ဆိုင်ရန်အပြင် ကုမ္ပဏီကပိုင်ဆိုင်ခွင့်ရှိသောမည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို သင့်တော်သောစည်းကမ်းချက်များ သတ်မှတ်၍ရောင်းချခြင်း၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း၊ သို့မဟုတ် အခြားနည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကို ပြုလုပ်ရန်။

(၂) သင့်လျော်သောစည်းကမ်းသတ်မှတ်ချက်များဖြင့်ငွေကြေးများကိုချေးငှားရန် သို့မဟုတ်အဆိုပါချေးငှား သော ငွေကြေးများကို ပြန်လည်ပေးဆပ်ရန်အတွက် အာမခံများထားရှိရန်အပြင်၊ အထူးသဖြင့် ဤကုမ္ပဏီ၏ ဒီဘင်ချာများ၊ ဒီဘင်ချာစတော့(ခ်)များ၊ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါအဝင် ယခုလက်ရှိနှင့် နောင်ရှိမည့် ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ထုတ်ဝေရန်။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက် အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာများ၊ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ဤကုမ္ပဏီ၏အခြားသော အာမခံစာချုပ်များကို ထုတ်ပေးရန်၊ ထို့အပြင် အဆိုပါ အစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့် ပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများ အနေဖြင့်သော်လည်းကောင်း သဘောတူညီသကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံစာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ဖြစ်စေ၊ ထိုကဲ့သို့မဟုတ်ဘဲဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ၊ တာဝန်ယူထားသည့်လုပ်ငန်းများ ပြီးစီးအောင် ဆောင်ရွက်စေခြင်း အလို့ငှာခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းရပ်များ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍ သော်လည်းကောင်း၊ အပေါင်ပြု၍ သော်လည်းကောင်း သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများ တောင်းခံခေါ်ယူ၍ သော်လည်းကောင်း ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန်။

(၅) မန်နေဂျာများ၊ အတွင်းရေးမှူးများ၊ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့် ဝန်ထမ်းများကိုအမြဲတမ်း၊ ယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက်ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက်လည်းကောင်း အဆိုပါ ပုဂ္ဂိုလ်တို့၏တာဝန်များ၊ အာဏာများ၊ လစာငွေများ၊ အခြားငွေကြေးများကို သတ်မှတ်ရာ၌လည်းကောင်း၊ အာမခံပစ္စည်းများ တောင်းခံရာ၌လည်းကောင်း သင့်လျော်သလိုဆောင်ရွက်ရန်၊ ထို့အပြင် အဆိုပါကိစ္စရပ်များအတွက် ကုမ္ပဏီ၏ မည်သည့်အရာရှိကိုမဆို ကိစ္စရပ်အားလုံးကို ဖြစ်စေ၊ တစ်စိတ်တစ်ဒေသကိုဖြစ်စေ ဒါရိုက်တာများ၏ကိုယ်စား ဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ်ရန်။

(၆) ဤကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍ မန်နေဂျင်း ဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲ မန်နေဂျာအဖြစ် ခန့်ထားရန်။

(၇) မည်သည့် အစုရှင်ထံမှမဆို ၎င်းတို့၏ အစုရှယ်ယာများအားလုံးကို ဖြစ်စေ၊ အချို့အဝက်ကိုဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသောစည်းကမ်းများဖြင့် လက်ခံရန်။

(၈) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့်ဖြစ်သော မည်သည့် ပစ္စည်းကိုမဆို ကုမ္ပဏီ၏ကိုယ်စား လက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆို ခန့်ထားရန်နှင့် အဆိုပါ ယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍ လိုအပ်သော စာချုပ်စာတမ်းများ ချုပ်ဆို ပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့် စပ်လျဉ်း၍ ဤကုမ္ပဏီက ပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏ အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆို ဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ် တောင်းခံသော ကြွေးမြီများနှင့်ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက် သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေး ခုံသမာဓိ၏ ဆုံးဖြတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီက ရရန်ရှိသောတောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ပေးရန်ရှိသော ငွေကြေးများအတွက် ပြေစာများ ပြုလုပ် ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့်စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီး မဆပ်နိုင်ခြင်း ကိစ္စများနှင့် ပတ်သက်၍ ကုမ္ပဏီ၏ကိုယ်စား ဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ ထပ်ဆင့် လက်မှတ်ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ကန်ထရိုက် စာချုပ်များနှင့်စာရွက်စာတမ်းများကို ကုမ္ပဏီ၏ကိုယ်စား မည်သူက လက်မှတ် ရေးထိုးခွင့်ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက သင့်လျော် လျှောက်ပတ်သောနည်းလမ်းများဖြင့် လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင် ငွေများကို အာမခံပစ္စည်း ပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ ရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန်။ ထို့အပြင် အချိန်ကာလအားလျော်စွာ မြှုပ်နှံထားသောငွေကို ပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလွှဲရန်။

(၁၅) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေး စိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြား ပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနှင့် နောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟု ယူဆပါက ဆောင်ရွက်ခွင့်ပြုရန်။ အဆိုပါ ပေါင်နှံခြင်းဆိုရာ၌ ရောင်းချနိုင်သည့် အာဏာနှင့် အခြားသော သဘောတူညီထားသည့် တရားဝင်သော တူညီချက်များနှင့် ဥပဒေပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီကခန့်အပ်ထားသော မည်သည့်အရာရှိသို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အတိအကျဆောင်ရွက်ခဲ့သည့်လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသော အမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏ အထွေထွေ အမြတ်အစွန်းမှ ခွဲဝေပေး ခြင်းများ ပြုလုပ်ရန်နှင့် အဆိုပါကော်မရှင်များ၊ အမြတ်များခွဲဝေပေးခြင်း စသည်တို့ကို ဤကုမ္ပဏီ၏လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသအဖြစ် သတ်မှန်ရန်။

(၁၇) ဤကုမ္ပဏီ၏လုပ်ငန်းများ၊ အရာရှိများ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်း များ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏လုပ်ငန်းအတွက် ဤကုမ္ပဏီ၏အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ကိုယ်စားဖြစ်စေ လိုအပ်သည်ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများကို ပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန် အပြင် အဆိုပါ ဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကိုလည်းကောင်း ၎င်းတို့နှင့် စပ်လျဉ်းသော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၉) ဒါရိုက်တာများက သင့်လျော်လျှောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်၊ စီးပွားရေး အဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

### အထွေထွေအစည်းအဝေးကြီးများ

၁၅။ ကုမ္ပဏီကိုဥပဒေအရ ဖွဲ့စည်းတည်ထောင်ပြီးသည့်နေ့မှ တစ်ဆယ့်ရှစ်လအတွင်း အထွေထွေသင်းလုံးကျွတ် အစည်းအဝေးကြီးကိုကျင်းပရမည်။ ထို့နောက် ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့် အချိန်နှင့် နေရာများတွင် ပြက္ခဒိန်နှစ်တစ်နှစ်လျှင် အနည်းဆုံးတစ်ကြိမ် (နောက်ဆုံးကျင်းပသည့် အထွေထွေအစည်းအဝေးကြီးနှင့် တစ်ဆယ့်ငါးလထက်မပိုသည့်အချိန်၌) ကျင်းပရမည်။ သင်းလုံးကျွတ် အစည်းအဝေးစတင်၍ လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်းအဝေးအထမြောက်ရန် သတ်မှတ်သည့် အစုရှင်အရေအတွက် မတက်ရောက်သော မည်သည့်သင်းလုံးကျွတ် အစည်းအဝေးတွင်မဆို လုပ်ငန်းနှင့် ပတ်သက်၍ ဆုံးဖြတ်ဆောင်ရွက်ခြင်းမပြုရ။ ဤတွင်အခြားနည်း သတ်မှတ်ပြဋ္ဌာန်းခြင်းမရှိလျှင် ထုတ်ဝေထားသည့် မ,တည် ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ်ရာခိုင်နှုန်းထက်မနည်း ပိုင်ဆိုင်ကြသည့် (နှစ်ဦးထက်မနည်းသော) အစုရှင်များ ကိုယ်တိုင်တက်ရောက်လျှင် လုပ်ငန်းကိစ္စအားလုံး ဆောင်ရွက်ရန်အတွက် အစည်းအဝေးအထမြောက်သည့်ဦးရေ ဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင်အစုရှင်အရေအတွက် နှစ်ဦးသာရှိသည့် ကိစ္စတွင်မူ ထိုနှစ်ဦးတည်းသည်ပင်လျှင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အရေအတွက်ဖြစ်စေရမည်။

### အမြတ်ဝေစုများ

၁၆။ သင်းလုံးကျွတ်အစည်းအဝေးတွင် ဤကုမ္ပဏီ၏ အစုရှင်များအား ခွဲဝေပေးမည့် အမြတ်ဝေစုကို ကြေညာရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေရသေးသည့် အမြတ်ပမာဏမှအပ အမြတ်ဝေစုကို ခွဲဝေမပေးရ။

### ရုံးဝန်ထမ်းများ

၁၇။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကို ဖွင့်လှစ်၍ ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်း ပြည့်မီသူပုဂ္ဂိုလ်တစ်ဦးအား အထွေထွေမန်နေဂျာအဖြစ် ခန့်အပ်ရန်နှင့် အခြားအရည်အချင်း ပြည့်မီသူများအား ရုံးဝန်ထမ်းများအဖြစ် ခန့်အပ်မည်ဖြစ်သည်။ လစာ၊ ခရီးသွားလာစရိတ်နှင့် အခြားအသုံးစရိတ်များကဲ့သို့သော ဉာဏ်ပူဇော်ခများနှင့် အခကြေးငွေများကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၎င်းသတ်မှတ်ချက်များကို သင်းလုံးကျွတ် အစည်းအဝေးက အတည်ပြုရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာလုပ်ငန်း လည်ပတ်မှုအားလုံးအတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး မန်နေဂျင်း ဒါရိုက်တာအားတာဝန်ခံ၍ ဆောင်ရွက်ရမည်။

### ငွေစာရင်းများ

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါ သတ်မှတ်ချက်များနှင့်အညီ ထားသိုထိန်းသိမ်း ဆောင်ရွက်ရမည်။

(၁) ကုမ္ပဏီ၏ ရငွေ၊ သုံးငွေများ၏ ပမာဏနှင့် ၎င်းရငွေ၊ သုံးငွေများ ဖြစ်ပေါ်ခြင်းနှင့် စပ်လျဉ်းသည့် အကြောင်းကိစ္စများ။

(၂) ကုမ္ပဏီ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(၃) ဤကုမ္ပဏီ၏ ရရန်ပိုင်ခွင့်နှင့် ပေးရန်တာဝန်များ။

၁၉။ ငွေစာရင်းစာအုပ်အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံး သို့မဟုတ် ဒါရိုက်တာများက သင့်လျော်သည်ဟု ထင်မြင်ယူဆသော အခြားနေရာတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး၊ ရုံးချိန်အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

### စာရင်းစစ်

၂၀။ စာရင်းစစ်များကို ခန့်အပ်ထားရမည်။ ၎င်းစာရင်းစစ်များ၏ တာဝန်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်း စည်းကမ်းများနှင့် လိုက်လျောညီထွေ ဖြစ်ရမည်။

**နို့တစ်စာ**

၂၁။ ဤကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါသော စာကို စာတိုက်ခ ကြိုတင်ပေးထား၍ ၄င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှတစ်ဆင့် လိပ်မူ ပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်သည်။

**တံဆိပ်**

၂၂။ ဒါရိုက်တာများသည် တံဆိပ်ကို လုံခြုံစွာထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများကကြိုတင်ပေးအပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတစ်ပါး၊ ထို့အပြင် အနည်းဆုံး ဒါရိုက်တာတစ်ဦး ရှေ့မှောက်တွင်မှ တစ်ပါး မည်သည့်အခါမျှ မသုံးရ။ တံဆိပ်ရိုက်နှိပ်ထားသည့် စာရွက်စာတမ်းတိုင်းတွင် ထိုဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

**လျော်ကြေး**

၂၃။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၈၆ (ဂ) တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိတရားဝင် တည်ဆဲဥပဒေပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူး သို့မဟုတ် အခြားအရာရှိ တစ်ဦးဦးမှာ မိမိ၏ တာဝန် ဝတ္တရားများကို ဆောင်ရွက်ရာ၌ဖြစ်စေ၊ ထိုတာဝန် ဝတ္တရားများနှင့် စပ်လျဉ်း၍ဖြစ်စေ ကျခံခဲ့ရသည့်စရိတ်များ၊ တောင်းခံငွေများ၊ ဆုံးရှုံးငွေများ၊ ကုန်ကျငွေများနှင့် ကြွေးမြီတာဝန်များ အတွက် ကုမ္ပဏီထံမှ လျော်ကြေး ရထိုက်ခွင့်ရှိစေရမည်။

**ဖျက်သိမ်းခြင်း**

၂၄။ ကုမ္ပဏီ၏ အထွေထွေအစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအား ဖျက်သိမ်းနိုင်သည်။ ယင်းသို့ ဖျက်သိမ်းရာတွင် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင်ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့် စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ်ရမည်။



အောက်တွင်အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ကိုယ်စီကိုယ်ငှသည်ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန်လိုလားသည့်အလျောက်ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲပြထားသော အစုရှယ်ယာများကိုကုမ္ပဏီ၏မတည်ရင်းနှီးငွေတွင်ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| က- | **SHALL-LONG CO., LTD.**<br>8F-3, No.47, Chung Hwa 4th Road, Kaohsiung, Taiwan. | Incorporated in **SAMOA** Registration No. **34790** | ၁၅၀၀၀၀ | |
| | **ကိုယ်စားပြုဒါရိုက်တာများ -** | | | |
| | (၁) **MR. CHEN, LUNG-MU**<br>No.15, Ln.2, Wenqian Rd., Niaosong Dist., Kaohsiung City 833, Taiwan (R.O.C.).<br>**( ကုန်သည် )** | **Taiwanese** P.P.No. 307870471 | | [signature] |
| | (၂) **MR. KUO, KUN-SHIH**<br>No.20, Aly.2, Ln.58, Renguang Rd., Renwu Dist., Kaohsiung City 814, Taiwan (R.O.C.).<br>**( ကုန်သည် )** | **Taiwanese** P.P.No. 212901730 | | [signature] |

ရန်ကုန် ။ ။ နေ့စွဲ၊ ၂၀၁၄ ခုနှစ်၊ နိုဝင်ဘာ လ၊ ( )ရက်။

**အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်တို့၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။**

အောက်တွင်အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ကိုယ်စီကိုယ်ငှသည်ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန်လိုလားသည့်အလျောက်ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲပြထားသော အစုရှယ်ယာများကိုကုမ္ပဏီ၏မတည်ရင်းနှီးငွေတွင်ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| | (၃) **MR. CHO, SHENG - CHUNG** 20F., No.116-1, Mingcheng 2nd Rd., Sanmin Dist., Kaohsiung City 807, Taiwan (R.O.C.). ( ကုန်သည် ) | **Taiwanese** P.P.No. 301056990 | | CHO, Sheng-chung |
| | (၄) **MR. LI, WEN - TI** No.73-1, Zhongshan Rd., Fengshan Dist., Kaohsiung City 830, Taiwan (R.O.C.). ( ကုန်သည် ) | **Taiwanese** P.P.No. 302432863 | | Li Wen-ti |
| ၁- | **ဦးစိန်ဦး (ခ) လောရိန်ကြစ်** အမှတ်-(၉၂/၉၄)၊ တတိယထပ်၊ ဘိုကလေးဈေးလမ်း၊ (၈)-ရပ်ကွက်၊ ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ ( ကုန်သည် ) | **မြန်မာ** ၁၂/ဗတထ (နိုင်) ၀၂၈၆၇၆ | ၃၃၅၀၀ | [signature] |

ရန်ကုန် ။ ။ နေ့စွဲ၊ ၂၀၁၄ ခုနှစ်၊ **နိုဝင်ဘာ** လ၊ ( )ရက်။

**အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်တို့၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။**

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Memorandum of Association

*OF*

# KNOWN - YOU SEED MYANMAR COMPANY LIMITED



I. The name of the Company is " **KNOWN - YOU SEED MYANMAR COMPANY LIMITED** ".

II. The registered office of the Company will be situated in the Union of Myanmar.

III. The objects for which the Company is established are as on the next page.

IV. The liability of the members is limited.

V. The Authorised Capital of the Company is US$ 2,000,000 ( United States Dollar Two Million Only ) divided into ( 2,000,000 ) shares of US$ 1 ( United States Dollar One Dollar Only ) each with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

6. **The Objective for which the company is established are :-**

To carry on the business of manufacturing, growing, milling and preserving etc ; of the following commodities permitted by the Government, either solely on its Own or in Joint-venture with any foreign or local partners.

**The company intends to carry out seeds plantation and processing to produce sowing seeds and agricultural businesses.**

7. To import machinery, spare parts, raw materials and others necessary for those activities mentioned above and to sell wholesale and retail finished and semi-finished products locally and abroad.

8. To borrow money for the benefit of the Company's business from any person, firm, company, bank or financial organization in the manners that the Company shall think fit.

***PROVISO:-*** *Provided that the Company shall not exercise any of the above objects whether in the Republic of the Union of Myanmar or elsewhere, save in so far as it may be entitled so as to do in accordance with the Laws, Orders and Notifications in force from time to time and then only subject to such permission and or approval as may be prescribed by the Laws, Orders and Notifications of the Republic of the Union of Myanmar for the time being in force.*

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Memorandum of Association, and we respectively agree to take the number of shares in the capital of the Company set opposite our respective names.

| Sr. No: | Name, Address and Occupation of Subscribers | Nationality & N. R. C No. | Number of shares taken | Signatures |
|---|---|---|---|---|
| A- | **SHALL-LONG CO., LTD.**<br>8F-3, No.47, Chung Hwa 4th Road, Kaohsiung, Taiwan. | Incorporated in **SAMOA** Registration No. **34790** | **150000** | |
| | **Represented by its Directors :-** | | | |
| | **(1) MR. CHEN, LUNG-MU**<br>No.15, Ln.2, Wenqian Rd., Niaosong Dist., Kaohsiung City 833, Taiwan (R.O.C.).<br>**( Merchant )** | **Taiwanese**<br>P.P.No.<br>307870471 | | [signature] |
| | **(2) MR. KUO, KUN-SHIH**<br>No.20, Aly.2, Ln. 58, Renguang Rd., Renwu Dist., Kaohsiung City 814, Taiwan (R.O.C.).<br>**( Merchant )** | **Taiwanese**<br>P.P.No.<br>212901730 | | [signature] |

Yangon. Dated the day of **November**, 2014.

***It is hereby certified that the persons mentioned above put their signatures in my presence.***

U YE NOOS (LL.B)
Supreme Court Advocate

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Memorandum of Association, and we respectively agree to take the number of shares in the capital of the Company set opposite our respective names.

| Sr. No: | Name, Address and Occupation of Subscribers | Nationality & N. R. C No. | Number of shares taken | Signatures |
|---|---|---|---|---|
| | **(3) MR. CHO, SHENG - CHUNG**<br>20F., No.116-1, Mingcheng 2nd Rd., Sanmin Dist., Kaohsiung City 807, Taiwan ( R.O.C. ).<br>**( Merchant )** | **Taiwanese**<br>P.P.No.<br>301056990 | | CHO, Sheng-chung |
| | **(4) MR. LI, WEN - TI**<br>No.73-1, Zhongshan Rd., Fengshan Dist., Kaohsiung City 830, Taiwan ( R.O.C. ).<br>**( Merchant )** | **Taiwanese**<br>P.P.No.<br>302432863 | | Li Wen-ti |
| **B-** | **U SEIN OO @ LAW YAIN KYIT**<br>No.(92/94), Third Floor,<br>Bogalay Zay Street, Ward No.(8).<br>Botahtaung Township,<br>Yangon Region.<br>**( Merchant )** | **Myanmar**<br>12 / Ba Ta Hta<br>(Naing) 028676 | **37500** | |

Yangon. Dated the day of **November**, 2014.

***It is hereby certified that the persons mentioned above put their signatures in my presence.***

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Articles of Association

*OF*

# KNOWN - YOU SEED MYANMAR COMPANY LIMITED



1. The regulations contained in Table 'A' in the First Schedule to the Myanmar Companies Act shall apply to the Company save in so far as such regulations which are inconsistent with the following Articles. The compulsory regulations stipulated in Section 17 (2) of the Myanmar Companies Act shall always be deemed to apply to the Company.

**PRIVATE COMPANY**

2. The Company is to be a Private Limited Company and accordingly following provisions shall have effect : -
   (a) *The number of members of the Company, exclusive of persons who are in the employment of the Company, shall be limited to fifty.*
   (b) *Any invitation to the public to subscribe for any share or debenture stock of the Company is hereby prohibited.*

**CAPITAL AND SHARE**

3. The Authorised Capital of the Company is US$ 2,000,000 ( United States Dollar Two Million Only ) divided into ( 2,000,000 ) shares of US$ 1 ( United States Dollar One Dollar Only ) each with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

4. Subject to the provisions of the Myanmar Companies Act the shares shall be under the control of the Directors, who may allot or otherwise dispose of the same to such persons and on such terms and conditions as they may determine.

5. The certificate of title to share shall be issued under the Seal of the Company, and signed by the General Manager or some other persons nominated by the Board of Directors. If the share certificate is defaced, lost or destroyed, it may be renewed on payment of such fee, if any, and on such terms, if any, as to evidence and indemnity as the Directors may think fit. The legal representative of a deceased member shall be recognised by the Directors.

6. The Directors may, from time to time make call upon the members in respect of any money unpaid on their shares, and each member shall be liable to pay the amount of every call so made upon him to the persons, and at the times and places appointed by the Directors. A call may be made payable by installments or may be revoked or postponed as the Directors may determine.

## DIRECTORS

7. Unless otherwise determined by a General Meeting the number of Directors shall not be less than ( **2** ) and not more than ( **9** ).

**The First Directors shall be : -**

**(1) MR. CHEN, LUNG - MU**

**(2) MR. KUO, KUN - SHIH**

**(3) MR. CHO, SHENG - CHUNG**

**(4) MR. LI, WEN - TI** and

**(5) U SEIN OO @ LAW YAIN KYIT.**

8. The Directors may from time to time appoint one of their body to the office of the Managing Director for such terms and at such remuneration as they think fit and he shall have all the power delegated to him by the Board of Directors from time to time.

9. The qualification of a Director shall be the holding of at least ( - ) shares in the Company in his or her own name and it shall be his duty to comply with the provision of Section ( 85 ) of the Myanmar Companies Act.

10. The Board of Directors may in their absolute and uncontrolled discretion refuse to register any proposed transfer of shares without assigning any reason.

## PROCEEDINGS OF DIRECTORS

11. The Director may meet together for the despatch of business, adjourn and otherwise regulate their meeting as they think fit and determine the quorum necessary for the transaction of business. Unless otherwise determined, two shall form a quorum. If any question arising at any meeting the Managing Director's decision shall be final. When any matter is put to a vote and if there shall be an equality of votes, the Chairman shall have a second or casting vote.

12. Any Director may at any time summon a meeting of Directors.

13. A resolution in writing signed by all the Directors shall be as effective for all purposes as a resolution passed out at meeting of the Directors duly called, held and constituted.

## POWERS AND DUTIES OF DIRECTORS

14. Without prejudice to the general power conferred by Regulation 71 of the Table "A" of the Myanmar Companies Act, it is hereby expressly declared that the Directors shall have the following powers, that is to say power:-

(1) To purchase or otherwise acquire for the Company any property, rights or privileges which the Company is authorized to acquire at such price, and generally on such terms and conditions as they think fit; also to sell, lease, abandon or otherwise deal with any property, rights or privileges to which the Company may be entitled, on such terms and conditions as they may think fit.

(2) To raise, borrow or secure the payment of such sum or sums in such manner and upon such terms and conditions in all respects as they think fit and in particular by the issue of debentures or debenture stocks of the Company charged upon all or any part of the property of the Company (both present and future) including its uncalled capital for the time being.

(3) At their discretion, to pay for any rights acquired or services rendered to the Company, either wholly or partially in cash or in shares, bonds, debentures or other securities of the Company and any such shares may be issued either as fully paid up or with such amount credited as paid up thereon as may be agreed upon; and any such bonds, debentures or other securities may be either specifically charged upon all or any part of the property of the Company and its uncalled capital or not so charged.

(4) To secure the fulfilment of any contract or engagement entered into by the Company by mortgage or charge upon all or any of the property of the Company and its uncalled capital for the time being or by granting calls on shares or in such manner as they may think fit.

(5) To appoint at their discretion, remove or suspend such Managers, Secretaries, Officers, Clerks, Agents and Servants for permanent, temporary or special services as they may from time to time think fit and to determine their duties and powers and fix their salaries or emoluments and to require security in such instances in such amount as they think fit and to depute any officers of the Company to do all or any of these things on their behalf.

(6) To appoint a Director as Managing Director, General Manager, Secretary or Departmental Manager in conjunction with his Directorship of the Company.

(7) To accept from any member on such terms and conditions as shall be agreed on the surrender of his shares or any part thereof.

(8) To appoint any person or persons to accept and hold in trust for the Company any property belonging to the Company or in which it is interested or for any other purposes and to execute and do all such deeds and things as may be requisite in relation to any such trust.

(9) To institute, conduct, defend or abandon any legal proceedings by or against the Company or its officers or otherwise concerning the affairs of the Company and also to compound and allow time for payment or satisfaction of any debts due to or of any claims and demands by or against the Company.

(10) To refer claims and demands by or against the Company to arbitration and to observe and perform the awards.

(11) To make and give receipts, releases and other discharges for money payable to the Company and for the claims and demands of the Company.

(12) To act on behalf of the Company in all matters relating to bankruptcy and insolvency.

(13) To determine who shall be entitled to sign bills of exchange, cheques, promissory notes, receipts, endorsements, releases, contracts and documents for or on behalf of the Company.

(14) To invest, place on deposit and otherwise deal with any of the moneys of the Company not immediately required for the purpose thereof, upon securities or without securities and in such manners as the Directors may think fit, and from time to time vary or realize such investments.

(15) To execute in the name and on behalf of the Company in favour of any Director or other person who may incur or be about to incur any personal liability for the benefit of the Company, such mortgages of the Company's property (present and future) as they think fit and any such mortgage may contain a power of sale and such other powers, covenants and provisions as shall be agreed on.

(16) To give any officer or other person employed by the Company a commission on the profits of any particular business or transaction or a share in the general profit of the Company and such commission or share of profit shall be treated as part of the working expenses of the Company.

(17) From time to time, to make, vary and repeal bye-laws for the regulation of the business of the Company, the officers and servants or the members of the Company or any section thereof.

(18) To enter into all such negotiations and contracts and rescind and vary all such contracts and execute and do all such acts, deeds and things in the name and on behalf of the Company as they may consider expedient for or in relation to any of the matter aforesaid or otherwise for the purposes of the Company.

(19) To borrow money for the benefit of the Company's business from any person, firm or company or bank or financial organization of local and abroad in the manner that the Directors shall think fit.

## GENERAL MEETINGS

15. A general meeting shall be held within eighteen months from the date of its incorporation and thereafter at least once in every calendar year at such time ( not being more than fifteen months after the holding of the last preceding general meeting ) and places as may be fixed by the Board of Directors. No business shall be transacted at any general meeting unless a quorum of members is presented at the time when the meeting proceeds to business, save as herein otherwise provided Member holding not less than 50 percent of the issued shares capital (not less than two members) personally present, shall form a quorum for all purposes. And if and when in the case of there are only two number of members in the Company, those two members shall form a quorum.

## DIVIDENDS

16. The Company in general meeting may declare a dividend to be paid to the members, but no dividend shall exceed the amount recommended by the Directors. No dividends shall be paid otherwise than out of the profits of the year or any other undistributed profits.

## OFFICE STAFF

17. The Company shall maintain an office establishment and appoint a qualified person as General Manager and other qualified persons as office staffs. The remunerations and allowances such as salaries, travelling allowances and other expenditures incidental to the business shall be determined by the Board of Directors, and approved by the general meeting. The General Manager shall be responsible for the efficient operation of the office in every respect and shall be held accountable at all times to the Managing Director.

## ACCOUNTS

18. The Directors shall cause to be kept proper books of account with respect to:-

*(1)* *all sums of money received and expended by the Company and the matters in respect of which the receipts and expenditures take place;*

*(2)* *all sales and purchases of goods by the Company;*

*(3)* *all assets and liabilities of the Company.*

19. The books of account shall be kept at the registered office of the Company or at such other place as the Directors shall think fit and shall be opened to inspection by the Directors during office hours.

## AUDIT

20. Auditors shall be appointed and their duties regulated in accordance with the provisions of the Myanmar Companies Act or any statutory modifications thereof for the time being in force.

## NOTICE

21 A notice may be given by the Company to any member either personally or sending it by post in a prepaid letter addressed to his registered address.

## THE SEAL

22. The Directors shall provide for the safe custody of the Seal, and the Seal shall never be used except by the authority of the Directors previously given, and in the presence of one Director at least, who shall sign every instrument to which the Seal is affixed.

## INDEMNITY

23. Subject to the provisions of Section 86 (C) of the Myanmar Companies Act and the existing laws, every Director, Auditor, Secretary or other officers of the Company shall be entitled to be indemnified by the Company against all costs, charges, losses, expenses and liabilities incurred by him in the execution and discharge of the duties or in relation thereto.

## WINDING-UP

24. Subject to the provisions contained in the Myanmar Companies Act and the statutory modification thereupon, the Company may be wound up voluntarily by the resolution of General Meeting.



We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Articles of Association, and we respectively agree to take the number of shares in the capital of the Company set opposite our respective names.

| Sr. No: | Name, Address and Occupation of Subscribers | Nationality & N. R. C No. | Number of shares taken | Signatures |
|---|---|---|---|---|
| A- | **SHALL-LONG CO., LTD.** 8F-3, No.47, Chung Hwa 4th Road, Kaohsiung, Taiwan. | Incorporated in **SAMOA** Registration No. **34790** | **150000** | |
| | **Represented by its Directors :-** | | | |
| | **(1) MR. CHEN, LUNG-MU** No.15, Ln.2, Wenqian Rd., Niaosong Dist., Kaohsiung City 833, Taiwan (R.O.C.). **( Merchant )** | **Taiwanese** P.P.No. 307870471 | | [signature] |
| | **(2) MR. KUO, KUN-SHIH** No.20, Aly.2, Ln. 58, Renguang Rd., Renwu Dist., Kaohsiung City 814, Taiwan (R.O.C.). **( Merchant )** | **Taiwanese** P.P.No. 212901730 | | [signature] |

...ngon. Dated the day of **November**, 2014.

***...is hereby certified that the persons mentioned above ...t their signatures in my presence.***

U YE NOOS (LL.B)
Supreme Court Advocate
176 First Floor, Botataung Pagoda Road, Maha Yeik Man Condo
Yangon. Ph: (01) 296132, 397234, 397235

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Articles of Association, and we respectively agree to take the number of shares in the capital of the Company set opposite our respective names.

| Sr. No: | Name, Address and Occupation of Subscribers | Nationality & N. R. C No. | Number of shares taken | Signatures |
|---|---|---|---|---|
| | **(3) MR. CHO, SHENG - CHUNG** 20F., No.116-1, Mingcheng 2nd Rd., Sanmin Dist., Kaohsiung City 807, Taiwan ( R.O.C. ). **( Merchant )** | **Taiwanese** P.P.No. 301056990 | | CHO, Sheng-chung |
| | **(4) MR. LI, WEN - TI** No.73-1, Zhongshan Rd., Fengshan Dist., Kaohsiung City 830, Taiwan ( R.O.C. ). **( Merchant )** | **Taiwanese** P.P.No. 302432863 | | Li Wen-Ti |
| **B-** | **U SEIN OO @ LAW YAIN KYIT** No.(92/94), Third Floor, Bogalay Zay Street, Ward No.(8). Botahtaung Township, Yangon Region. **( Merchant )** | **Myanmar** 12 / Ba Ta Hta (Naing) 028676 | **37500** | [illegible] |

ngon. Dated the day of **November**, 2014.

***is hereby certified that the persons mentioned above t their signatures in my presence.***

U YE NOOS ( LL.B )
Supreme Court Advocate
176(First Floor), Botataung Pagoda Road, Meba Yeik Mon Condo,
Yangon. Ph: (01) 296132, 397234, 397